

# TALES SHAKESPEARE

ဟောင်သိန်ကျွင်

# ရှိတ်စပီးယား ပုံပြင်များ

# ရှိတ်စပီးယား ပုံပြင်များ

# (ဒုတိယတွဲ)

## အမှာစာ

**ရှိတ်စပီးယား** ပုံပြင်များ (ပထမတွဲ) တွင် **ဆရာမောင်သိန်းလွင်** သည် **ဗင်းနစ်မြို့မှ ကုန်သည်ကြီး၊ ဂျူးလီယက်ဆီဇာ** နှင့် **လီယာဘုရင်ကြီး** ဟူသော ပြဇာတ် (၃)ပုဒ်ကို စကားပြေဖြင့် ဘာသာပြန်တင်ဆက်ခဲ့သည်။ စာရေးအားကောင်းလှသော **ဆရာမောင်သိန်းလွင်** သည် ယခု ဒုတိယတွဲတွင် **နွတ်သီးကောင်းလျှာပါးကို သွန်သင်ခြင်း၊ မုန်တိုင်း**နှင့်**မက်ကဘက်သ်**ဟူသော ပြဇာတ်(၃)ပုဒ်ကို ဘာသာပြန် တင်ဆက်ခဲ့ပေပြီ။ ဤသုံးပုဒ်အနက် **မက်ကဘက်သ်** သည်စာပေဝေဖန်သူတို့ အကြားတွင် ရေပန်းအစားဆုံးသော ပြဇာတ်တစ်ပုဒ် ဖြစ်ခဲ့သည်။

(၁၉၉၉) ခု ဒီဇင်ဘာလ (၃၁)ရက်နေ့ထုတ် တိုင်း (Time)မဂ္ဂဇင်းက **ဝီလျံ ရှိတ်စပီးယား** ကို ရာစုနှစ်၏ လက်ာဆရာကျော် (BARD OF THE CENTURY) ဟု ချီးကျူးဂုဏ်ပြုခဲ့သည်။ မှန်ပါသည်။ **ရှိတ်စပီးယား** သည် **အတော်** နှင့် **အကျော်** တွင် အကျော်ကပင် နည်းနေသေးသည်ဟု ဆိုရမလောက်တော်သူ ဖြစ်ပါသည်။

ယခု **ဆရာ မောင်သိန်းလွင်**၏ ကျေးဇူးကြောင့် **ရှိတ်စပီးယား**၏ ထင်ရှားပြဇာတ် (၃)ပုဒ်ကို အင်္ဂလိပ်စကားပြေ၊ မြန်မာ စကားပြေတို့ဖြင့် စာသင်သားလူငယ်များ ဖတ်ရှုနိုင်ပေပြီ။ ရှေ့သို့ ဆက်လက်၍လည်း ကျန်ပြဇာတ်များကို ဘာသာပြန် တင်ဆက်လိမ့်မည်ဟု မျှော်လင့်မိပါသည်။ ယခု အမှာစာနောက်ပိုင်းတွင် ပထမတွဲအမှာစာတုန်းက ကျွန်တော်ဆိုခဲ့သည့် အချုပ်စကားလေးကို ပြန်လည်တင်ပြလိုက်ပါသည်။ **အင်္ဂလိပ်စာကို လေ့လာသူများအဖို့လည်း ဂန္ထဝင်စာပေကို လွယ်ကူသော အင်္ဂလိပ်စကားပြေဖြင့် ဖတ်ရှုနိုင်ပြီဖြစ်ရာ သားရွှေအိုးထမ်းလာသည်ကိုမြင်ရသည့်ကိန်း ဆိုက်ပေပြီ** ဟုသာ အမှာစကားပါးလိုက်ပါတော့သတည်း။

ဒေါက်တာကျော်စိန်

၂၄.၃.၀၂

# မောင်သိန်းလွင် ၏
# ရှိတ်စပီးယားပုံပြင်များ
### (ဒုတိယတွဲ)

လွန်ခဲ့သော တစ်နှစ်ကျော်လောက်က **ဆရာ မောင်သိန်းလွင်** သည် **ရှိတ်စပီးယားပုံပြင်များ** စာအုပ်ကို စီစဉ်ရေးသား ထုတ်ဝေခဲ့ပြီးပါပြီ။ ထိုစာအုပ်တွင်ကျွန်တော် အမှာစာ ရေးခဲ့၏။ ယခု ဒုတိယတွဲတွင်လည်း အမှာစာ ရေးရန် ဆရာက အခွင့်အရေးပေးလာသဖြင့် ရေးခွင့်ကြုံပြန်သည်။ ရေးရပြီဆိုတော့လည်း သူ့စာအုပ်ကို အသေအချာဖတ်ပြီးမှ ရေးဖို့ကောင်းသည်။ ထို့ကြောင့် ဆရာ့စာအုပ်ကို အချိန်ပေးပြီး ဖတ်ရသည်။

ဖတ်ရသည့်အခါ ငယ်ငယ်က ဖတ်ခဲ့ဖူးတာတွေ ပြန် သတိရသည်။ ထိုအခါ ငယ်ချစ်ဟောင်းနှင့် ပြန်တွေ့ရသကဲ့သို့ ခံစားရသည်။ **ရှိတ်စပီးယား**၏ ဝတ္ထုတွေကလည်း စွဲမက်စရာကောင်းလှ၏။ ဘယ်အချိန်ဖတ်ဖတ် မရိုးအီ သွားပါ။ လူတို့၏ စရိုက်ကို ပီပြင်စွာဖွဲ့နွဲ့တတ်သဖြင့် အချိန်ကာလဒဏ်ကို ခံနိုင်သည်။

အထူးသဖြင့် **ဆရာ မောင်သိန်းလွင်** ဘာသာပြန်သည့် **THE TAMING OF THE SHREW, THE TEMPEST** နှင့် **MACBETH** ဝတ္ထုတို့သည် ဖတ်မိသည့် အချိန်မှစ၍ ရင်ထဲတွင် စွဲထင်ကျန်ရစ်စေနိုင်သော အစွမ်း

ရှိ၏။ ထိုဝတ္ထုတိုသုံးပုဒ်ထဲတွင် **MACBETH** သည် ကြောက်ကြောက်လန့်လန့်နှင့် အမှတ်ရစေသည်။ ဝတ္ထုထဲတွင် စုန်းမကြီး ၃ –ယောက်က နမိတ်ဖတ်ပြောတာပါသည်။ အထက်တန်းကျောင်းသားဘဝ ဖတ်ရစဉ်က **မက်က်ဘက်သ်** နှင့် စုန်းမကြီးတွေ တွေ့ဆုံခန်းသည် ရင်ကိုထိတ်စေခဲ့၏။ ယခုအသက်အရွယ် ဖတ်ရသည့်အခါ တရားရစရာတွေအဖြစ် သတိထားမိသည်။

**မက်က်ဘက်သ်**သည် ဘုရင်ဖြစ်မည်ဟု စုန်းမကြီးတွေနမိတ်ဖတ်သွားသည်ကို ဇနီးသည်အားပြောမိသဖြင့် ဘုရင်ကိုလုပ်ကြံပြီး ထီးနန်းယူဖို့ ဇနီးက အစစအရာရာ ပြင်ဆင်သည်။ မကြောက်မရွံ့ နောက်မတွန့်ဘဲ လုပ်သည်။ ဘုရင်သေသွားပြီး သူ့သားတွေက အခြေအနေကို ရိပ်စားမိကာ ထွက်ပြေးတိမ်းရှောင်သွားသည်။ ထိုအခါ **မက်က်ဘက်သ်** သည် ဘုရင်ဖြစ်လာသည်။ ဘုရင်ဖြစ်လာသည့်အခါ အရာရာကို ပိုင်ဆိုင်ရလိမ့်မည်ဟု သူ မျှော်လင့်ခဲ့မိသည်။ သို့ရာတွင် သူ၏ မိတ်ဆွေတွေ၊ သူ၏ဂုဏ်သိက္ခာ၊ သူ့စစ်သားများ၏ ယုံကြည်အားထားမှု၊ သူ့ဇနီးသည်နှင့် ပေါင်းသင်းဆက်ဆံခြင်းတွေ ဆုံးရှုံးသွားသည့်အပြင် လူတိုင်းဆီက မုန်းတီးမှုတွေ ကျိန်ဆဲမှုတွေ သူရရှိလိုက်တော့၏။

သူ ဘုရင်အဖြစ် တည်တံ့ရေးအတွက် သူ့မိတ်ဆွေရင်း မက်က်ဒပ်ဖ် ကိုသတ်ဖို့ ကြံစည်ရပြန်သည်။ **မက်က်ဒပ်ဖ်** အချိန်မီ ထွက်ပြေးလွတ်မြောက်သွားသဖြင့်

သူ့မိန်းမနှင့် ကလေးတွေကို သတ်ပစ်လိုက်သည်။ သွေးဆာနေသော ဇနီးမောင်နှံ နှစ်ယောက်စလုံး အိပ်မက်ဆိုးတွေနှင့် လုံးထွေးပြီး အိပ်စက်မရသော ညများစွာကို ရင်ဆိုင်ဖြတ်သန်းရတော့သည်။ **မက်ကဘက်သ်** ၏ ဇနီးဖြစ်သူမှာ ထိုဒဏ်ကို မခံစားနိုင်တော့သဖြင့် သူ့ကိုယ်သူ သတ်သေသွားတော့သည်။

ဖတ်ရင်းဖတ်ရင်း တရားရ၊ တရားကျမိတော့သည်။ လူတစ်ယောက်သည် မိမိ၏ ကိုယ်ကျိုးအတွက်အတွက် သူတစ်ပါးကို မတော်တရားပြုမူလုပ်ကြံခဲ့လျှင် **မက်ကဘက်သ်** ကဲ့သို့ အိပ်မက်ဆိုးတွေ ကြုံတွေ့နိုင်ကြောင်း **ရှိတ်စပီးယား** က ကောင်းကောင်း သင်ခန်းစာပေးထားသည်။

ကျွန်တော်သည် **မက်ကဘက်သ်** ကို ပြန်ကြည့်မိသည့် အကြိမ်တိုင်း ထိုကဲ့သို့ ခံစားရလိမ့်ဦးမည် ထင်သည်။

သင်သည် ဤစာအုပ်ကို ဖတ်နေသူဖြစ်ပြီး ကျွန်တော်နှင့် သဘောတူ ခံစားခဲ့ရပါမူ **ရှိတ်စပီးယား**နှင့် **ဆရာမောင်သိန်းလွင်**တို့ကြောင့်သာ မှတ်ယူလိုက်ပါတော့။

သူတို့သည် ကျွန်တော်တို့အား ဝေဒနာတွေပေးပြီး သင်ခန်းစာတွေကို သိမြင်အောင် ပြုစားခဲ့ကြလေပြီ။ ထို့အတွက် သူတို့အား ကျေးဇူးတင်ပါ၏။ ဝေဒနာကြားထဲမှ သင်ခန်းစာသည် အဖိုးထိုက်တန်သည်။ အဖိုးထိုက်တန်သော သင်ခန်းစာကို ပေးခဲ့ကြပေသည်ဟု ကျေးဇူးတင်ရခြင်းဖြစ်ကြောင်း ပြောဆိုရန် လိုမည်မထင်တော့ပါ။

ချစ်ခင်လျက်

**ကောင်းသန့်**

# ဘာသာပြန်သူ၏ အမှာ

## ဆဆဆ

၁၉၆၆–၆၇ ခုနှစ်လောက်က Six Tales from Shakespeare... ဟူသော စာအုပ်ကို ... တက္ကသိုလ်ဝင်တန်းတပည့်များကို သင်ကြားပို့ချပေးခဲ့ဖူးပါသည်။ ဇာတ်လမ်းဇာတ်ကွက်သာမက အရေးအသားအသုံးအနှုန်း စကားလုံး ရွေးချယ်မှုစသည်တို့ကိုပါ... ကျွန်တော် စွဲမက်ခဲ့ရသော စာတစ်အုပ်ဖြစ်ကြောင်း ဖော်ပြပြီး ထိုစာအုပ်ထဲမှ ပုံပြင် (၃)ပုဒ်ကို ပထမတွဲအဖြစ် ဘာသာပြန်ဆိုခဲ့ပါသည်။ ကျန် (၃)ပုဒ်ကို ဒုတိယတွဲအဖြစ် ယခု ဘာသာပြန်ဆိုထုတ်ဝေခြင်း ဖြစ်ပါသည်။

ပထမတွဲတွင် ဖော်ပြခဲ့သည့်အတိုင်း... ကပြရန် ပြဇာတ် (Acted Play) အဖြစ်မှ ... ဖတ်ရှုရန်... (Printed Play) အဖြစ်သို့ ပြောင်းလဲရေးသားရန်မှာ လွယ်ကူသော်လည်း (Tales) အဖြစ်အနှစ်ချုပ်၍ မူရင်းအာဘော်မပျက်အောင် (Abridge) ပြန်လည်ရေးသားရန်မှာ မလွယ်ကူ။ **ရှိတ်စပီးယား** ၏စိတ်ကူးဉာဏ်... ခံစားမှု...တင်ပြမှု... တွေးဟန်ရေးဟန်များ မပျက်အောင် ထိန်းသိမ်းရေးသားနိုင်သော ပညာရှင်ကြီးအား ဦးညွှတ်ဂါရဝပြုရင်း... မြန်မာဘာသာသို့ ပြန်ဆိုပါကြောင်း ပထမတွဲတွင် ကျွန်တော်ဖော်ပြခဲ့ပါသည်။ ယခု ဒုတိယတွဲ

ကို ပြန်ဆိုရာတွင်လည်း အဆိုပါ ပညာရှင်ကြီးအား လေးစားမြတ်နိုးသော စိတ်ဖြင့် တန်ဖိုးထားပြန်ဆိုပါသည်။

မည်သို့ဆိုစေ ... အင်္ဂလိပ်စာကို ဝါသနာပါ၍ လေ့လာလိုက်စားနေဆဲ လူငယ်များအတွက် အနည်းငယ်မျှ အကျိုးရှိသည်ဆိုလျှင်ပင် ကျွန်တော်ဘာသာပြန်ရကျိုးနပ်ပြီဟု ဆိုရမည်ဖြစ်ပါသည်။

**စေတနာအနန္တဖြင့်**

မောင်သိန်းလွင်

၂၈၊ ၃၊ ၂၀၀၂



# THE TAMING OF THE SHREW

## PEOPLE IN THE STORY

BAPTISTA, a rich gentleman of Padua

KATHARINE, The shrew } daughters of Baptista
BIANCA

HORTENSIO, } in love with Bianca
LUCENTIO,

PETRUCHIO

VINCENTIO, father of Lucentio

In Padua, a beautiful city of Italy, there once lived a rich gentleman called Baptista. He had two daughers, the gentle and beautiful Bianca, and Katharine.



## နှုတ်သီးကောင်းလျှာပါးကို သွန်သင်ခြင်း

ဇာတ်ကောင်များ (ပုံပြင်တွင် ပါဝင်သူများ)

**ဘက်ပ်တစ်စ်တာ** - ပဒျူအာမြို့မှ လူကုံထံတစ်ယောက်

**ကက်သရင်း** (နှုတ်သီးကောင်းလျှာပါး) } **ဘက်ပ်တ်စစ်တာ**
**ဘီယင်ကာ** ၏ သမီးများ

**ဟော်တင်ဆီယို** } **ဘီယင်ကာ အား**
**လူစီတီယို** မေတ္တာသက်ဝင်သူများ

**ပက်ထရူချီယို**

**ဗင်စန်တီယို** - **လူစင်တီယို** ၏ ဖခင်

**အီတလီ**နိုင်ငံ လှပတဲ့ ပဒျူအာ မြို့ကလေးမှာ . . . လူကြီးလူကောင်း သူဌေးကြီး **ဘက်ပ်တစ်စ်တာ** ဆိုသူဟာ တစ်ချိန်တုန်းက နေထိုင်ခဲ့တယ်၊ သူ့မှာ သမီး နှစ်ယောက်ရှိတယ်၊ နူးညံ့သိမ်မွေ့ပြီး လှပတဲ့ **ဘီယင်ကာ** နဲ့ **ကက်သရင်း** တို့ပေါ့။



Katharine was as beautiful as her sister, but she had such an ungovernable temper that she was always known as Katharine the Shrew. Everyone was afraid of her angry tongue, and in spite of her beautiful face she had no admirers.

Katharine was Baptista's elder daughter, and he began to fear that she would never find a husband. Many men wanted to marry Bianca, but no one was willing to risk marriage with the bad-tempered Katharine. At last Baptista decided on a plan. He announced that Katharing must be married before Bianca; it was the elder sister's right. Bianca's admirers at once began to look round for a man who would be brave enough to marry this wild eat, 'Katharine the cursed.'

**ကက်သရင်း** ဟာ သူ(မ)ရဲ့ ညီမ. . . လှသလောက်ကို လှပါတယ်။ ဒါပေမယ့် . . . သူ(မ)မှာ ထိန်းမနိုင် သိမ်းမရတဲ့ ဒေါသစိတ်က ရှိတယ်။ အဲဒီလို ဆိုဆုံးမဖို့ ခက်တဲ့စိတ်နဲ့ ဒေါသကြောင့်ပဲ. . . သူမကို "နှုတ်သီးကောင်း လျှာပါးမ. . . **ကက်သရင်း**"လို့ အမြဲထာဝရ ခေါ်ဝေါ်သမုတ်ကြတယ်။ လူတိုင်းက . . . သူ(မ)ရဲ့ ဒေါသမာန်ကြီးလွန်းတဲ့ နှုတ်လျှာကို ကြောက်လန့်နေကြတယ်။ ဒါကြောင့်မို့လည်း. . . သူမရဲ့ မျက်နှာလေးက ကြော့ရှင်းလှပပေမယ့်. . . သူ(မ)မှာ ချစ်သူ မရှိဘူးလေ။

**ကက်သရင်း** ဟာ **ဘက်ပ်တစ်စ်တာ** ရဲ့ သမီးအကြီး ဖြစ်တယ်၊ (ဖခင်ဖြစ်သူ) သူ့အနေနဲ့. . . (သမီးဖြစ်သူ) **ကက်သရင်း** ဟာ ဘယ်တော့မှ ခင်ပွန်းတစ်ယောက်. . . ရမှာ မဟုတ်တော့ဘူးလို့ စိုးရိမ်စ ပြုလာတယ်၊ ယောကျ်ား တော်တော်များများက **ဘီယင်ကာ** ကို လက်ထပ်ချင်ကြ တယ်။ ဒါပေမယ့်. . . စိတ်သဘောဆိုးတဲ့ **ကက်သရင်း**ကိုတော့ ဘယ်သူမှ စွန့်စားပြီး လက်မထပ်ချင်ကြဘူး။ နောက်ဆုံးမှာ. . . **ဘက်ပ်တ်စစ်တာ** က အစီအစဉ် (စီမံကိန်း)တစ်ခုကို ပြုလုပ် ဖို့ ဆုံးဖြတ်တယ်။ **ကက်သရင်း** ဟာ **ဘီယင်ကာ** အရင် လက်ထပ်ရမယ်. . . ဒါဟာ အစ်မတစ်ယောက်ရဲ့ အခွင့်အရေး ပဲ. . . လို့ သူက ကြေငြာလိုက်တယ်၊ **ဘီယင်ကာ** ကို လိုလား နှစ်သက်နေသူတွေဟာ. . . နှုတ်လျှာကြမ်းတမ်းတဲ့ **ကက်သရင်း** ကို လက်ထပ်ရဲတဲ့အထိ သတ္တိရှိသူတစ်ယောက်ကို ချက်ချင်း လှည့်လည် ရှာဖွေကြရတာပေ့ါ။



Now, in Verona, another Italian town, there lived a rich and gay young man called petruchio. His father had recently died and left him plenty of money, and Petruchio now wished to see the world and find a wife. So he went to Padua, and there he met a friend, Hortensio, one of the young men who wanted to marry looking for a wife, and Hortensio at once thought of Katharine the Shrew, Petruchio was a strong-willed young man; surely he would be able to make Katharine obey him? He was merry and good-tempered, too, and clever and amusing. Altogether, he was a wise young man, and would know how to tame an ill-tempered wife.

**အီတလီ** နိုင်ငံရဲ့ အခြားမြို့တစ်မြို့ဖြစ်တဲ့ **ဗာရိုးနား** မှာ **ပက်ထရူချီယို** ဆိုသူ နေထိုင်တယ်။ သူက ချမ်းသာကြွယ်ဝပြီး ပျော်ပျော်ရွှင်ရွှင် နေတတ်တဲ့ လူငယ်တစ်ယောက်ဖြစ်တယ်၊ မကြာခင်ကမှ သူ့ဖခင်သေသွားပြီး. . . သူ့အတွက် ပိုက်ဆံ အမြောက်အမြား ထားရစ်ခဲ့တယ်။ ဒါကြောင့် သူက အနယ်နယ်အရပ်ရပ်ကို လှည့်လည်သွားရောက် ကြည့်ရှုလိုတယ်၊ ဇနီး တစ်ယောက်ကိုလည်း ရှာချင်တယ်ပေါ့။ ဒါကြောင့် သူက **ပဒျူဟာ** မြို့ကို ထွက်လာခဲ့တယ်။ အဲဒီမြို့ကိုလည်း ရောက်ရော. . . **ဟော်တင်ဆီယို** ဆိုတဲ့ သူငယ်ချင်းတစ်ယောက်နဲ့ တွေ့တယ်။ သူက **ဘီယင်ကာ** ကို လက်ထပ်ချင်တဲ့ လူငယ်တွေအနက် တစ်ယောက်ပေါ့။ **ပက်ထရူချီယို** က သူလည်း ဇနီးတစ်ယောက် ရှာနေကြောင်း ပြောပြတယ်။ **ဟော်တင်ဆီယို** က နှုတ်သီးကောင်းလျှာပါး. . . **ကက်သရင်း** (အကြောင်း)ကို ချက်ချင်းတွေးမိတယ်။ **ပက်ထရူချီယို** ဟာ စိတ်ဓာတ်ကြံ့ခိုင်သူ လူငယ်တစ်ယောက်ဖြစ်တယ်။ **ကက်သရင်း** က သူ့စကားကို နာခံအောင် (**ကက်သရင်း** ကို အပိုးကျိုးအောင်) သူ့အနေနဲ့ ကျိန်းသေမုချ လုပ်နိုင်ပါ့မလား. . . ? သူက ပျော်ပျော်နေတတ်ပြီး စိတ်သဘောလည်း ကောင်းတယ်။လိမ္မာပါးနပ်ပြီး ဟာသဉာဏ်လည်း ရှိတယ်။ အားလုံးကို ခြုံပြီးပြောရရင်တော့. . . သူဟာ ပညာရှိလူငယ်တစ်ယောက် ဖြစ်တယ်၊ စိတ်သဘောဆိုးတဲ့ ဇနီးတစ်ယောက်ကို ယဉ်ကျေးလာအောင် ဘယ်လို ဆုံးမရမလဲဆိုတာ သိလောက်တယ်။



So Hortensio told Petruchio all about the gentle Bianca, whom he loved and wished to marry; and about the beautiful but bad-tempered Katharine.

'And no one can marry Bianca until Katharine has a husband,' he finished sadly.

Petruchio was interested and amused.

'I'll marry her,' he said. 'Let her scold as loudly as a thunderstorm! I shall still make her love me.'

And he went to Baptista's house, taking Hortensio with him.

'You must pretend to be a musician,' Petrushio said to him. 'You can teach Katharine music and I will teach her love. Between we will tame the shrew.'

ဒါကြောင့်. . . **ဟော်တင်ဆီယို** က **ပက်ထရူချီယို** ကို ဇာတ်စုံခင်းပြီး. . . အကုန်လုံးကို ပြောပြတယ်၊ သူ့အနေနဲ့ ချစ်မြတ်နိုးပြီး. . . လက်ထပ်ချင်တဲ့. . . နူးညံ့သိမ်မွေ့သူ **ဘီယင်ကာ** အကြောင်းရော၊ လှပင်လှငြားလည်း စိတ်သဘော ခက်ထန်ဆိုးဝါးတဲ့ **ကက်သရင်း** အကြောင်းရော. . . ပေ့ါ။

"ဒီတော့ **ကက်သရင်း** လင်မရမချင်း. . . ဘယ်သူမှ **ဘီယင်ကာ** ကို လက်ထပ်နိုင်မှာ မဟုတ်ဘူးပေ့ါကွာ. . . "လို့ သူ့စကားကို ဝမ်းနည်းစွာနဲ့ အဆုံးသတ်လိုက်တယ်။

**ပက်ထရူချီယို** က စိတ်ဝင်စားသွားတယ်။ စိတ်ထဲမှာ ရွှင်မြူးပြီး သဘောလည်းကျသွားတယ်။

**"ကက်သရင်း** ကို ငါ လက်ထပ်မယ်ကွာ. . . "လို့ သူ က ပြောလိုက်တယ်၊ "မိုးခြိမ်းသံလောက် ကျယ်အောင် အော်ဟစ်ကြိမ်းမောင်းနေပါစေ. . . ငါ့အပေါ် ချစ်လာအောင် ငါ ဖန်တီးယူမယ်"

**ဟော်တင်ဆီယို** ကို သူနဲ့အတူ လိုက်ခဲ့ဖို့ခေါ်ပြီး **ဘက်ပ်တစ်စ်တာ** ရဲ့ အိမ်ကို သွားတယ်။

"မင်းက ဂီတပညာရှင်တစ်ယောက်လို ဟန်ဆောင် ရမယ်. . . ၊ မင်းက **ကက်သရင်း** ကို ဂီတ သင်ပေးနိုင်တာပေ့ါ ငါက အချစ်ကို သင်ပေးမယ်။ တို့ နှစ်ယောက်ညှပ်ပြီး. . . ဒီ နှုတ်သီးကောင်းလျှာပါးမကို လိမ္မာသွားအောင် သွန်သင် ကြမယ်" လို့ **ပက်ထရူချီယို** က သူ့ကို ပြောလိုက်တယ်။



When they reached Baptista's house Petruchio spoke to him at once.

'Pray, have you not a daughter called Katharine, fair and virtuous?' he asked.

'I have a daughter, sir, called Katha-rine,' Baptista answered.

'I am a gentleman of Verona, sir,' Petruchio went on. ' I have heard so much of the beauty and gentleness of your daughter Katharine that I have come to ask your permission for my friend to teach her music and for me to marry her.'

'You are very welcome,'Baptista said, and he sent Hortensio to Katharine at once. 'But I am afraid my daughter would not suit you,' he added sadly to Petruchio.

**ဘက်ပ်တစ်စ်တာ** ရဲ့ အိမ်ကို ရောက်သွားတော့ **ပက်ထရူချီယို** က သူ့ကို ချက်ချင်းပဲပြောဆိုတယ်။

"ကျေးဇူးပြုပြီးတော့. . . ပေါ့ ခင်ဗျာ။ လူကြီးမင်းမှာ လှပပြီး အကျင့်သီလစင်ကြယ်တဲ့. . . **ကက်သရင်း** ဆိုတဲ့ သမီးလေးတစ်ယောက် ရှိတယ်ဆိုတာ ဟုတ်ပါသလား ခင်ဗျာ. . . ?" လို့ မေးလိုက်တယ်။

"ကျုပ်မှာ **ကက်သရင်း** ဆိုတဲ့ သမီးတစ်ယောက်တော့ ရှိသဗျ" လို့ **ဘက်ပ်တစ်စ်တာ** က ပြန်ဖြေတယ်။

"ကျွန်တော် က **ဗာရိုနား** မြို့မှ လူကုံထံအမျိုးသား ကောင်း (မိကောင်းဖခင် သားသမီး) ပါ ခင်ဗျာ။ လူကြီးမင်း. . . သမီး **ကက်သရင်း** ရဲ့ အလှအပနဲ့ နူးညံ့သိမ်မွေ့မှု. . . သတင်းစကား အမြောက်အမြားကို. . . ကျွန်တော် ကြားသိခဲ့ရတာကြောင့် ကျွန်တော် ဒီကို လာခဲ့တာပါ။ **ကက်သရင်း** ကို ကျွန်တော့် သူငယ်ချင်းက ဂီတသင်ပေးခွင့်၊ ကျွန်တော့် အတွက်ကတော့ **ကက်သရင်း** ကို လက်ထပ်ခွင့်ပြုပါလို့ လူကြီးမင်းထံ ခွင့်ပန်ဖို့ လာခဲ့တာပါ ခင်ဗျာ. . . " လို့ **ပက်ထရူချီယို** က ဆက်ပြောတယ်။

"ကြိုဆိုပါတယ်ဗျာ. . . သိပ်ကို ကြိုဆိုပါတယ်" လို့ **ဘက်ပ်တစ်စ်တာ** က ပြောလိုက်တယ်၊ ပြီးတော့ **ဟော်တင်ဆီယို** ကို **ကက်သရင်း** ထံ ချက်ချင်း လွှတ်လိုက်တယ်၊ **ပက်ထရူချီယို** ကိုတော့. . . "ဒါပေမယ့်. . . ငါ့သမီးက မင်းနဲ့ မလိုက်ဖက်မှာ၊ သဟဇာတမဖြစ်မှာကိုတော့ ငါ စိုးရိမ်မိတယ်ကွာ" လို့ စိတ်မကောင်းစွာနဲ့ ထပ်ဆင့်ပြောဆိုတယ်။



'I see you do not wish to part with her, or else you do not want me for a son-in-law,' said Petruchio.

'Indeed, you are mistaken,' said Bap-tista. 'But where do you live, sir? What is your name?'

When Baptista heard his name, he real-ised that Petruchio's father was an old friend of his, and he welcomed the young man gladly to his house. But he had to admit that he doubted whether his elder daughter would make Petruchio a good wife, even her father was afraid of her scolding tongue. 'I wish you good luck with her,' he said to the young man, 'but you must be perpared for some unhappy words.'

"လူကြီးမင်း က လူကြီးမင်းရဲ့သမီးနဲ့ မခွဲနိုင်လို့လား ခင်ဗျာ. . . ဒါမှမဟုတ် ကျွန်တော့်ကို သမက် မတော်ချင်လို့များလား ဗျာ. . . " လို့ **ပက်ထရူချီယို** က ပြောတော့. . .

"တကယ့်ကို. . . မင်း မှားနေပြီ. . .၊ ဒါပေမယ့် ပြောပါဦး. . . မင်းက ဘယ်မှာနေလဲ. . .၊ မင်းရဲ့ နာမည်ကိုကော ဘယ်လို ခေါ်သလဲ. . . ?" လို့ **ဘက်ပ်တစ်စ်တာ** က မေးလိုက်တယ်။

**ဘက်ပ်တစ်စ်တာ** က သူ့နာမည်ကို ကြားတဲ့အခါ **ပက်ထရူချီယို** ရဲ့ အဖေဟာ သူ့ရဲ့မိတ်ဆွေဟောင်း တစ်ယောက် ဖြစ်နေကြောင်း သိရှိသွားတယ်၊ ဒီတော့ လူငယ်လေးကို သူ့အိမ်သို့ ဝမ်းမြောက်ဝမ်းသာ ကြိုဆို(လက်ခံ)တယ်။ ဒါပေမယ့် သူ့ရဲ့ သမီးကြီးဟာ **ပက်ထရူချီယို** အတွက် ဇနီးကောင်းတစ်ယောက်ဖြစ်မှ ဖြစ်ပါ့မလား ဆိုတာ သံသယဖြစ်မိကြောင်း ဝန်ခံပြောကြားတယ်။ ဖခင်အရင်းကတောင် သမီးရဲ့ ဆူပူကြိမ်းမောင်းတတ်တဲ့ လျှာ(ပါးစပ်)ကို ကြောက်တယ်။ "သူ(မ)နဲ့ ပတ်သတ်ရင် ကံကောင်းပါစေလို့ ဆုမွန်ကောင်းတောင်းပါတယ်ကွာ၊ ဒါပေမယ့်. . . စိတ်မချမ်းမြေ့စရာစကားတွေအတွက်တော့ မင်းကြိုတင်ပြင်ဆင်ထားရလိမ့်မယ်. . . ကွ. . . " လို့ သူက လူငယ်လေး(**ပက်ထရူချီယို**) ကို ပြောလိုက်သည်။



At this moment, Hortensio came running into the room. His head was cut and bleeding, and his face was white with fear and anger.

'Why are you so pale?' asked Bapti-sta. What is the matter? Will my daughter prove a good musician?."

'She will make a better soldier,' said Hortensio angrily. He told Baptista that he had tried to correct Katharine's playing on the lute, and she had grown so angry that she had struck him on the head with the instrument. His head was cut and the lute was broken; and while he stood helplessly in front of her she had shouted at him rudely, calling him by insulting names.

အဲဒီအချိန်မှာ **ဟော်တင်ဆီယို** က အခန်းထဲကို ပြေး ဝင်လာတယ်၊ သူ့ခေါင်းမှာ စုတ်ပြတ်ကွဲနေပြီး သွေးထွက် နေတယ်၊ ကြောက်ရွံ့မှုနဲ့ ဒေါသတရားကြောင့် သူ့မျက်နှာက ဖြူဖပ်ဖြူရော် ဖြစ်နေတယ်။

"ဘာဖြစ်လို့ (မင်းရဲ့ မျက်နှာက) ဖြူဖပ်ဖြူရော် ဖြစ်နေရတာလဲ. . . ? ဘာကိစ္စလဲ. . . ဘာဖြစ်တာလဲ. . . ငါ့သမီး က ဂီတအနုပညာရှင်ကောင်း တစ်ယောက် အဖြစ်နဲ့ သက်သေပြလိုက်ရဲ့လား. . . ?" လို့ **ဘက်ပ်တစ်စ်တာ** က မေးလိုက်တယ်။

"စစ်သမီးလုပ်ရင် ပိုကောင်းမယ်ဗျ. . . " လို့ **ဟော်တင် ဆီယို** က ဒေါသတကြီး ပြန်ဖြေတယ်၊ **ကက်သရင်း** ဗျပ် စောင်းတီးတဲ့အခါ မှားတာလေးတွေကို ပြင်ပေးဖို့ သူ က ကြိုးစားတယ်၊ အဲဒါကို သူ(မ) က အရမ်းဒေါသထွက်ပြီး သူ့ ခေါင်းကို အဲဒီ ဗျပ်စောင်းနဲ့ ရိုက်ထည့်လိုက်တယ်၊ သူ့ ခေါင်း က ပေါက်သွားပြီး ဗျပ်စောင်းက ကျိုးသွားတယ်၊ သူ က ကြောင်ပြီး သူ(မ)ရဲ့ ရှေ့မှာ ရပ်နေမိတုန်း သူ(မ)က သူ့ကို ရိုင်းရိုင်းစိုင်းစိုင်း အော်ဟစ်ဆဲဆိုတယ်. . . လို့ သူ က **ဘက်ပ်တစ်စ်တာ** ကို ပြောပြတယ်။



Petruchio thought this was a huge joke, and burst out laughing.

'She is a brave girl!' he said, delighted. 'I love her ten times more than ever.' He told Baptista how impatient he was to meet this merry Katharine, and asked if he could see her at once. So Baptista advised the unhappy Hortensio to go and find Bianca, who would prove an easier pupil; and Baptista himself went to fetch the stormy Katharine. Petruchio, left alone, decided on his treatment of this wild and angry girl.

**ပက်ထရူချီယို** ကတော့ ဒါဟာ မဟာပြက်လုံးပဲလို့ တွေးထင်ယူဆပြီး ဟားတိုက်ရယ်မောတယ်။

"သူ(မ)ဟာ တကယ့် သတ္တိခဲ. . . မိန်းကလေးပဲ၊ ကျုပ်တော့ သူ့ကို ဆယ်ဆလောက်ပိုချစ်သွားပြီဗျာ. . ."လို့ သူ က ကျေနပ်ဝမ်းသာပြောလိုက်တယ်။

သူဟာ ပျော်ပျော်နေတတ်တဲ့ **ကက်သရင်း** ကိုတွေ့ချင်လွန်းလို့ ဘယ်လောက်ထိ မအောင့်အီးနိုင် ဖြစ်ရကြောင်း၊ နှစ်သက်ပျော်ရွှင်စရာကောင်းတဲ့ **ကက်သရင်း** ကို တွေ့ချင်လွန်းလို့ စိတ်မရှည်နိုင် သည်းမခံနိုင်လောက်အောင် ဖြစ်နေရကြောင်း၊ သူ(မ)ကို ချက်ချင်းပဲ သွားတွေ့ခွင့်ပြုနိုင်ပါမည်လား. . . လို့ **ဘက်ပ်တစ်စ်တာ** ကို ခွင့်တောင်းတယ်၊ ဒါကြောင့် **ဘက်ပ်တစ်စ်တာ**က စိတ်လက် မချမ်းမသာဖြစ်နေတဲ့ **ဟော်တင်ဆီယို**ကို အကြံပေးတယ်၊ **ဘီယင်ကာ** ကို သွားရှာဖို့။ သူ(မ)ကတော့ ပိုမို အေးဆေးနာခံတဲ့ တပည့်တစ်ယောက်ဖြစ်ကြောင်း တွေ့ရပါလိမ့်မယ် (လို့ ပြောပြီး) သူ ကိုယ်တိုင်ပဲ ဒေါသမာန်ထနေတဲ့ **ကက်သရင်း** ကို ခေါ်ဖို့ ထွက်သွားတယ်။ တစ်ယောက်တည်း ကျန်ခဲ့တဲ့ **ပက်ထရူချီယို** က ရိုင်းစိုင်းပြီး ထိန်းမနိုင်သိမ်းမရ ဒေါသမာန်ရှနေတဲ့ မိန်းကလေးအပေါ် သူ(ရဲ့ ပြုမူဆက်ဆံရေး) ဘယ်ပုံဘယ်နည်း ပြုမူဆက်ဆံရမယ်ဆိုတာကို ဆုံးဖြတ်တယ်။



'If she scolds, I shall tell her that she sings as sweetly as a bird,' thought he. 'If she frowns, I'll say she looks as clear as morning roses newly wahsed with dew. If she will not speak a word, I shall say how well she talks. If she tells me to be gone, I shall thank her as if she had asked me to stay a week. If she will not marry me, I shall ask her to name the day for our marriage.'

The proud Katharine entered, annoyed with this stranger who had asked to see her, but petruchio made no apology. He greeted her cheerfully with the words:

"အကယ်၍ သူ(မ)က များ ဟိန်းဟောက်ကြိမ်းမောင်းလာရင်. . . ငှက်ကလေးတွေ တေးဆိုသလိုပဲ. . . သာယာပါပေတယ်. . . လို့ သူ(မ)ကို ငါ က ပြောမယ်။ အကယ်၍ သူ(မ)က မျက်မှောက်ကြီးကြုတ်ထားရင်. . . နံနက်စောစော နှင်းရည်နှင်းစက်ကလေးတွေ ဖျန်းပက်ပြီးကာစ. . . နှင်းဆီပန်းကလေးတွေလို ကြည်လင်လန်းဆန်းပါပေတယ်. . . လို့ ငါ က ပြောမယ်၊ အကယ်၍ သူ(မ)က စကားတစ်ခွန်းမှမပြောရင်. . . ဟာ အပြောအဆို အလွန်ကောင်းပါသော်ကော. . . လို့ ငါ က ဆိုမယ်။ အကယ်၍ သူ(မ) က ငါ့ကို ထွက်သွားဖို့ပြောရင်. . . သူ(မ)က ငါ့ကို တစ်ပတ်လောက် တည်းခိုနေထိုင်ပါဦးလို့ (ပြောဘိသကဲ့သို့) ပြောတဲ့အတွက် ကျေးဇူးတင်ကြောင်း ပြန်ကြားပြောဆိုမယ်၊ အကယ်၍ သူ(မ) က ငါ့ကို လက်မထပ်နိုင်ပါဘူး. . . လို့ ငြင်းရင် ကိုယ်တို့ မင်္ဂလာလက်ထပ်ဖို့အတွက် ရက်မြတ်ကို ရွေးကြစို့. . . လို့ ငါ က (တိုက်တွန်း) ပြောဆိုမယ်. . . " လို့ တွေး(နေမိ)တယ်။

မာနကြီး (တစ်ခွဲသားနဲ့) **ကက်သရင်း** ဝင်ရောက်လာတယ်၊ သူ(မ)ကို တွေ့ခွင့်တောင်းတဲ့ ဒီ လူစိမ်းကို စိတ်အနှောက်အယှက်ဖြစ်. . . ဒေါသထွက်နေတယ်၊ ဒါပေမယ့် **ပက်ထရူချီယို** က ဘာတောင်းပန်သမှုကိုမှ မပြုဘူး၊ သူက ရွှင်လန်းဝမ်းမြောက်စွာနဲ့ ဒီလို စကားဆိုတယ်။



'Good-morrow, Kate, for that's your name, I hear.'

'They call me Katharine that do talk of me,' said Katharine angrily.

'You lie!' said Petruchio, 'You are called plain Kate, and pretty Kate, and sometimes Kate the cursed; but, Kate you are the prettiest Kate in all the world, Your beauty, your gentleness, and your virtues are praised in every town, and I have come to ask you to be my wife.

'How dare you! Katharine cried. 'Will you go away at once!'

But Petruchio would not go. Katharine argued with him, she scolded him, she tried to make him quarrel; but he pretended not to hear her insults.

“မဂ်လာနံနက်ခင်းပါ **ကေတီ**။ ဒါ က မင်းရဲ့ နာမည် လို့ ကိုယ်ကြားဖူးထားလို့ပါ”

“ကျွန်မကို **ကက်သရင်း** လို့ ခေါ်ကြတယ်။ အဲဒီလိုပဲ (လူတိုင်းက) ပြောဆိုခေါ်ဝေါ်ကြရတယ်” လို့ **ကက်သရင်း** က ဒေါသတကြီး ပြန်ပြောတယ်။

“မင်း လိမ်တာပါ” လို့ **ပက်ထရူချီယို** က ပြောလိုက်တယ်၊ “မင်းကို ရိုးသားတဲ့ **ကေတီ**၊ လှပတဲ့ **ကေတီ**၊ အဲ. . . တစ်ခါတစ်ရံကျတော့ ကျိန်ဆဲတတ်တဲ့ **ကေတီ**. . . တဲ့။ ဒါပေမယ့် **ကေတီ** ရယ်မင်းဟာ တစ်လောကလုံးမှာ အလှဆုံးပါပဲကွယ်၊ မင်းရဲ့ အလှ၊ မင်းရဲ့ နူးညံ့သိမ်မွေ့မှု၊ မင်းရဲ့ (ပင်ကိုယ် အရည်အသွေး) ကောင်းမြတ်တဲ့ ကိုယ်ကျင့်တရားတွေကို မြို့တိုင်းမှာ ချီးကျူးနေကြပါတယ်၊ ဒါကြောင့် ကိုယ်လည်း ဒီကိုလာခဲ့ပါတယ်၊ ကိုယ့်ရဲ့ အိမ်သူသက်ထား ချစ်မယားအဖြစ် လက်ခံပါလို့. . . ပန်ကြားဖို့လေ. . . ”

“ရှင် တော်တော် အတင့်ရဲတဲ့လူပါလား. . . ရှင် ခုချက်ချင်း အိမ်က ထွက်သွားစမ်း. . . ” လို့ **ကက်သရင်း** က အော်လိုက်တယ်။

ဒါပေမယ့် **ပက်ထရူချီယို** က ဘယ်သွားလိမ့်မလဲ။ **ကက်သရင်း** က သူ့ကို ငြင်းခုံပြောဆိုတယ်၊ ကြိမ်းမောင်းဟိန်းဟောက်တယ်၊ သူနဲ့ ရန်ဖြစ်ဖို့ ကြိုးစားတယ်၊ ဒါပေမယ့် သူ(မ)ရဲ့ စော်ကားမှုတွေကို သူ က မကြားဟန်ဆောင်တယ်။



He praised her beauty and her gentle ways and said that those who had told him she was a bad-tempered shrew were liars. Finally he said: 'Sweet Kate, I am going to marry you whether you wish it or not. Your father has given his consent, and I shall tame you, Kate, and change you from a wild Kate to a gentle Kate. Here comes your father: never make denial. I must and will have Katharine for my wife.'

And when Baptista came in, Petruchio told him that he and Katharine had arranged to be married on the following Sunday.

'I'll see you hanged on Sunday before I marry you,' cried Katharine, stamping her foot in anger, and she accused her father of wishing to marry her to a madman. But Petruchio interrupted her stormy speech.

သူက သူ(မ)ရဲ့ အလှအပ၊ သူ(မ)ရဲ့ နူးညံ့သိမ်မွေ့တဲ့ အမူအကျင့်တွေကို ချီးကျူးတယ်၊ ပြီးတော့ သူ(မ)ကို စိတ်သဘောဆိုးတဲ့ နှုတ်သီးကောင်းလျှာပါးမ လို့ ပြောတဲ့ လူတွေဟာ လူလိမ်တွေသာ ဖြစ်တယ်လို့ ပြောလိုက်တယ်။ နောက်ဆုံးမှာ သူ က ပြောလိုက်တယ်. . . "မြတ်နိုးရတဲ့ အချစ်ကလေး **ကေတီ** ရယ်၊ မင်းရဲ့ဆန္ဒပါ ပါ. . . မပါ ပါ. . . (မင်း သဘော တူ. . . တူ မတူတူ) ကိုယ်က မင်းကို လက်ထပ်မယ်၊ မင်းရဲ့ဖခင် က သဘောတူလိုက်ပြီ၊ (ကိုယ့်ကို လက်ထပ်ခွင့်ပြုလိုက်ပြီ)၊ ကိုယ်. . . မင်းကို သွန်သင်ရမယ် **ကေတီ**. . .၊ မင်းကို ရိုင်းစိုင်းတဲ့ **ကေတီ** အဖြစ်ကနေ သိမ်မွေ့တဲ့ **ကေတီ** အဖြစ် ပြောင်းလဲအောင် လုပ်မယ်၊ ကဲ. . . မင်းအဖေ လာပြီ၊ ဘာမှ ငြင်းမနေနဲ့တော့. . . ကိုယ်ဟာ **ကက်သရင်း** ကို ကိုယ့်ရဲ့ဇနီးအဖြစ် ရအောင် ယူမယ်၊ ယူကို ယူရလိမ့်မယ်"

**ဘက်ပ်တစ်စ်တာ** ဝင်လာတဲ့အခါ **ပက်ထရူချီယို** က သူနဲ့ **ကက်သရင်း** တို့ လာမယ့် တနင်္ဂနွေနေ့မှာ လက်ထပ်ဖို့ စီစဉ်ပြီးပြီ ဖြစ်တဲ့အကြောင်း ပြောပြလိုက်တယ်။

**ကက်သရင်း** က ကြမ်းပြင်ကို ဖနောင့်နဲ့ ဒေါသတကြီး ဆောင့်ဆောင့်ပြီး အော်ဟစ်ပြောဆိုတယ်။ "တနင်္ဂနွေနေ့မှာ ရှင့်ကို ကျွန်မ လက်မထပ်ခင်. . . ရှင် ကြိုးဆွဲချသေနေတာကို ကျွန်မ တွေ့ရလိမ့်မယ်" ပြီးတော့ သူ(မ)ရဲ့ အဖေကိုလည်း. . . စွပ်စွဲပြောဆိုတယ်. . . ဒီလို အရူးတစ်ယောက်ကို သူ(မ)နဲ့ လက်ထပ်ဖို့ သဘောတူရမလား. . . ပေါ့။ ဒါပေမယ့် **ပက်ထရူချီယို** က သူ(မ)ရဲ့ ဒေါသမာန်ပွားနေတဲ့ စကားတွေကို ကြားဖြတ်ပြောဆိုတယ်။



'Be patient,' he said to Baptista. 'She talks like this when you are here, but when we are alone she is most gentle and loving. Indeed, you will not believe how much she loves me.' Then turning to Katharine, he said: 'Come, kiss me, Kate! I will go to Venice to buy fine clothes and jewels, for we will be married on sunday.'

and Katharine speechless with anger and astonishment at this extraordinary young man's behaviour, said no more.



"သည်းခံပါ ခင်ဗျာ. . ." လို့ သူ က **ဘက်ပ်တစ်စ်တာ** ကို ပြောလိုက်တယ်၊ "လူကြီးမင်း ရောက်လာမှ ဒီလိုတွေ ပြောတာ ခင်ဗျ. . .၊ ဒါပေမယ့် ကျွန်တော်တို့နှစ်ယောက်ထဲ ရှိတုန်းက ဆိုရင်. . . သူ(မ)ဟာ အနူးညံ့အသိမ်မွေ့ဆုံး ချစ်စရာ အကောင်းဆုံးပါပဲ။ တကယ်ပါပဲ ခင်ဗျာ. . . ကျွန်တော့်အပေါ် သူ(မ)က ဘယ်လောက်ချစ်တယ် ဆိုတာ လူကြီးမင်း. . . မယုံနိုင်လောက်အောင်. . . ဖြစ်သွားပါလိမ့်မယ်၊ အဲဒီနောက် **ကက်သရင်း** ဘက်ကိုလှည့်လိုက်ပြီး "လာပါဦး. . . **ကေတီ**. . . ကိုယ့်ကို မွှေးကြူလှည့်ပါဦးကွယ်. . . ကိုယ်တို့က တနင်္ဂနွေနေ့မှာ မင်္ဂလာဆောင်ကြမှာ ဆိုတော့. . . ဝတ်ကောင်းစားလှတွေ လက်ဝတ်တန်ဆာတွေ ဝယ်ဖို့. . . ကိုယ် **ဗင်းနစ်** မြို့ကို သွားရလိမ့်မယ်။"

ဒီ ထူးခြား (အံ့သြဖွယ် ကောင်း)တဲ့ လူငယ်လေးရဲ့ အပြုအမူကြောင့် **ကက်သရင်း** ဟာ ဒေါသတွေဖြစ်. . . အံ့အားတွေ သင့်ပြီး စကားတစ်ခွန်းမှ မပြောနိုင်အောင် ဖြစ်ခဲ့ရပါတယ်။



On Sunday the feast was ready and the guests arrived. Katharine was frowning and bad tempered, but she was dressed in fine new clothes and was ready for the marriage. Every-one was waiting for Petruchio, but he did not come. The guests whispered to each other, and katharine cursed and scolded, and then ran tear-fully out of the room- a shamed because Petruchio had treated her so badly.

'He never means to marry me,' she cried. 'He has done all this to make a fool of me.'

By this time everyone was certain that Petruchio would not come, but suddenly he rode up on an ancient horse wihch was so thin and ill that it could hardly walk.

တနင်္ဂနွေနေ့မှာ မင်္ဂလာ(အခမ်းအနား) စားသောက်ပွဲက အဆင်သင့် ဖြစ်ပြီး၊ ဧည့်သည်တွေ ရောက်လာကြပြီ၊ **ကက်သရင်း** က မျက်မှောက်ကြီးကြုတ်ပြီး စိတ်တွေ တိုနေတယ်။ ဒါပေမယ့်. . . သူ(မ) က ဝတ်ကောင်းစားလှတွေ ဝတ်ဆင်ထားပြီး မင်္ဂလာပွဲအတွက် အသင့်ဖြစ်နေပြီ၊ လူတိုင်းက **ပက်ထရူချီယို** ကို စောင့်ဆိုင်းနေကြပြီ. . . ဒါပေမယ့်. . . သူ ကတော့ ပေါ်မလာပါဘူး။ ဧည့်သည်တွေက တစ်ယောက်နဲ့ တစ်ယောက်တီးတိုးတီးတိုး ပြောကုန်ကြပြီ၊ **ကက်သရင်း** ကျိန်ဆဲကြိမ်းမောင်းပြီး အခန်းထဲက ထွက်ပြေးသွားတယ်။ သူ(မ)ရဲ့ မျက်လုံးမှာတော့ မျက်ရည်တွေ. . ဝိုင်းလို့။ **ပက်ထရူချီယို** က ခုလို သူ(မ)အပေါ် အရမ်းကို ဆိုးဆိုးဝါးဝါး ဆက်ဆံလို့. . . သူ(မ)အရှက်ရခဲ့ပြီလေ။

" သူ က ငါ့ကို လက်ထပ်ဖို့ ဘယ်တုန်းကမှ ရည်ရွယ်ခဲ့တာမှ မဟုတ်ဘဲ. . . ဒါတွေအားလုံးဟာ(ငါ့ကို ချိုးဖို့)ငါ့ကို အရှူးလုပ်ဖို့. . . သူဆောင်ရွက်ခဲ့တာပဲ. . . "ဆိုပြီး သူ(မ) က ငိုတယ်။

အဲဒီအချိန်မှာ. . . **ပက်ထရူချီယို** လာမှာမဟုတ်တော့ဘူးလို့ လူတိုင်းက ကျိန်းသေတွက်ဆထားကြပြီ။ ဒါပေမယ့်. . . သူ က သိပ်ကိုအိုးမင်းနေတဲ့. . . မြင်းအိုကြီးတစ်ကောင်ကိုစီးပြီး ရုတ်တရက် ပေါ်ပေါက်လာတယ်၊ မြင်းကြီးက အရမ်းကို ပိန်လှီပြီးနာမကျန်းဖြစ်နေတဲ့အတွက် လမ်းတောင်အနိုင်နိုင် လျှောက်နေရတယ်။



Petruchio himself looked like a beggar, in torn and dirty clothes, with a rusty, borken sword at his belt; and his servant was dressed in the same untidy fashion. The guests whispered together in astonishment as Petruchio jumped down from his miserable horse, calling: 'Where is Kate? Whre is my lovely wife?'

Baptista was extremely annoyed with Petruchio for keeping them all waiting, and for arriving in such a disgraceful state. 'Why, sir, you know this is your wedding day,' he said, and told Petruchio to go and change into more suitable clothes at once.

Petruchio, however, stubbornly refused to change anything. 'Kate is marrying me, not my clothes,' he said.

**ပက်ထရူချီယို** ကိုယ်တိုင်လည်း စုတ်ပြတ်ညစ်ပတ်နေတဲ့ အဝတ်အစားတွေနဲ့. ။ သူတောင်းစားရုပ် ပေါက်နေတယ်။ သံချေးတက်နေတဲ့ ဓားရှည်အကျိုးကြီးကိုလည်း သူ့ခါးပတ်မှာ ချိတ်လို့. ၊ သူ့ အစေခံကလည်း သူလို ထပ်တူ. . မသေမသပ် ပုံစံနဲ့ပါပဲ။ **ပက်ထရူချီယို** က သူ့ရဲ့ အိုမင်းစုတ်ချာနေတဲ့ မြင်းကြီးပေါ်က ဆင်းပြီး **"ကေတီ** ဘယ်မှာလဲ. . . ဟင်? ကျွန်တော့်ရဲ့ ချစ်စရာ ကောင်းတဲ့ ဇနီးလေး ဘယ်မှာလဲ. . ဟင်?" လို့ အော်ပြီး မေးတယ်၊ ဧည့်သည်တွေအားလုံး ကတော့ တအံ့တသြနဲ့ တီးတိုးတီးတိုး ပြောကုန်ကြတာပေါ့။

သူတို့အားလုံးကို ခုလိုအကြာကြီး စောင့်ဆိုင်းနေစေတဲ့အတွက်ကော. . အခုလို ကျက်သရေမဲ့အနေအထားနဲ့ ရောက်လာတဲ့အတွက်ပါ **ဘက်ပ်တစ်စ်တာ** က **ပက်ထရူချီယို** အပေါ် အရမ်းဒေသထွက် စိတ် အနှောင့်အယှက်ဖြစ်တယ်။ "ဘယ်လိုလဲကွယ်. . ဒီနေ့ဟာ မင်းရဲ့ မင်္ဂလာနေ့ မှန်း မင်း သိရက်သားနဲ့. . "လို့ ဆိုပြီး၊ ပိုမိုသင့်လျော် ကောင်းမွန်တဲ့ အဝတ်အစားတွေ. . . ချက်ချင်းသွားလဲဖို့ **ပက်ထရူချီယို** ကို ပြောတယ်။

ဒါပေမယ့် **ပက်ထရူချီယို** က ဘာ(အဝတ်အစား)မှ မလဲနိုင်ဘူး. . လို့ ခေါင်းမာမာနဲ့ ငြင်းဆန်တယ်၊ **"ကေတီ** က ကျွန်တော့်ကို လက်ထပ်တာပဲ. . . ကျွန်တော်ရဲ့ အဝတ်အစားတွေကို လက်ထပ်တာမှ မဟုတ်တာ. . . " လို့ သူ က ဆိုတယ်။



All arguments proved useless, and at last Katharine went unwillingly to church. During the ceremony, Petruchio continued to act in the same wild and shocking way. He cursed the priest so loudly that the poor man dropped his book in astonishment, and, when he bent down to pick it up, Petruchio rudely knocked him over, He continued to curse and shout and stamp his feet, and poor Katharine, who had never been afraid of anyone, began to tremble with fear. When the ceremony was over, Petruchio called loudly for a cup of wine, drank half of it, and threw the remains into the priest's face.

'His beard looked so thin and hungry,' Petruchio said, roaring with laughter. 'I thought some wine would do it good.'

(ဘာပြောပြော) ပြောဆိုသမျှအားလုံးဟာ အရာမရောက် အချည်းနှီးပဲ. . . ဆိုတာ တွေ့ရတော့၊ နောက်ဆုံးမှာ **ကက်သရင်း** က စိတ်မပါလက်မပါနဲ့ပဲ ဘုရားရှိခိုးကျောင်းကို သွားခဲ့ရတယ်။ မင်္ဂလာအခမ်းအနား ဆောင်ရွက်နေတဲ့ကာလအတွင်းမှာလည်း **ပက်ထရူချီယို**က အဲဒီလိုပဲ ရိုင်းစိုင်းပြီး တုန်လှုပ်ဖွယ်ကောင်းတဲ့ နည်းလမ်းအတိုင်း ဆက်လက်ပြုမူတယ်။ ဘုန်းတော်ကြီးကို ကျယ်ကျယ်လောင်လောင်ကျိန်ဆဲကြိမ်းမောင်းတဲ့အတွက် ဘုန်းတော်ကြီး က အံ့အားတွေသင့်ပြီး စာအုပ်လွတ်ကျသွားတယ်၊ လွတ်ကျသွားတဲ့စာအုပ်ကို ကုန်းကောက်မယ်အလုပ်မှာ **ပက်ထရူချီယို** က ဘုန်းတော်ကြီးကို (လဲကျသွားအောင်) ရိုင်းရိုင်းစိုင်းစိုင်းထိုးလှဲ့ပစ်လိုက်တယ်၊ (အလဲထိုး ပစ်လိုက်တယ်) သူ က ဆက်ပြီး အော်ဟစ်ကျိန်ဆဲပြီး ကြမ်းပြင်ကို ဖနောင့်နဲ့ဆောင့်တယ်၊ ဘယ်သူ့ကို ဘယ်တုန်းကမှ မကြောက်ခဲ့ဖူးတဲ့ (သနားစရာ) **ကက်သရင်း** ဟာ (အခုတော့) ကြောက်ရွံ့တုန်လှုပ်စပြုပါပြီ။ အခမ်းအနားပြီးတဲ့အခါ. . . ဝိုင် အရက်တစ်ခွက်ပေးဖို့. . . **ပက်ထရူချီယို** က အော်တောင်းလိုက်တယ်၊ အရက်တစ်ခွက်ထဲက အရက်ကို တစ်ဝက်သောက်ပြီး. . ကျန်တာတွေကို ဘုန်းကြီးရဲ့ မျက်နှာဆီ ပက်ထည့်လိုက်တယ်။

"သူ့ရဲ့ မုတ်ဆိတ်မွေးတွေက ပိန်လှီ ဆာလောင်နေပုံရတယ်၊ ဝိုင်အရက် နည်းနည်းပေးလိုက်ရင် အဆင်ပြေသွားမယ်. . . ထင်တယ်" လို့ဟားတိုက်ရယ်မောရင်း **ပက်ထရူချီယို** ကပြောလိုက်တယ်။



At last Katharine succeeded in persuading him to return to her father's house, but Petruchio told her that it was impossible for them to remain for the marriage feast.

'Please stay for the feast!' Katharine begged him. 'What will our guests say if we go away now?'

But Petruchio did not care about the guests, and refused to stay.

'If you love me, stay,' Katharine said again.

Petruchio's only answer was to tell his servant to bring the horses, and Katharine flew into a temper.

'Go, then!' she cried. 'The door is open. But I will not go today; no, nor tomorrow, nor till I wish to go.'

နောက်ဆုံးကျတော့. . . သူ(မ)ရဲ့ အဖေ့အိမ်ကို ပြန်ဖို့ **ကက်သရင်း** ဖျောင်းဖျတာ အောင်မြင်သွားတယ်၊ ဒါပေမယ့် မင်္ဂလာစားသောက်ပွဲ ပြီးတဲ့အထိနေဖို့ရန် မဖြစ်နိုင်ဘူး (အခုပဲ. . . ထွက်ခွာသွားကြမယ်)လို့ **ပက်ထရူချီယို** ကသူမ ကို ပြောတယ်။

"ကျေးဇူးပြုပြီး မင်္ဂလာစားသောက်(ဧည့်ခံ)ပွဲလေး ပြီးတဲ့အထိတော့ နေပါ. . .၊ ကျွန်မတို့ အခု ချက်ချင်းကြီး ထွက်သွားကြရင် ဧည့်သည်တွေက ဘယ်လို ပြောကြ မလဲ. . . ?" လို့ **ကက်သရင်း** က သူ့ကို တောင်းပန်တယ်။

ဒါပေမယ့်. . . **ပက်ထရူချီယို** က ဧည့်သည်တွေကိုဂရု မစိုက်ဘူး၊ ပြီးတော့ ဆက်နေဖို့ကိုလည်း ငြင်းဆန်တယ်။

"ကျွန်မကို ချစ်ရင်. . . နေပါဦးရှင်ရယ်"လို့ **ကက် သရင်း** က ထပ်ပြောတယ်။

**ပက်ထရူချီယို** ရဲ့ တစ်ခုတည်းသော အဖြေကတော့ သူ့ အစေခံကို မြင်းတွေယူလာခဲ့ဖို့ ခိုင်းလိုက်တာပါပဲ။ **ကက်သရင်း** ကဝုန်းကနဲဆို ဒေါသထွက်သွားတယ်။

"ကဲ. . . ဒီလိုဆိုလည်း ကြွတော်မူ. . . "လို့ သူ(မ) က အော်ပြောလိုက်တယ်။ "တံခါး ဖွင့်ထားတယ်. . . ဒါပေမယ့် ကျွန်မကတော့ ဒီနေ့ မသွားဘူး၊ မနက်ဖြန်လည်း မသွား ဘူး. . .၊ကျွန်မစိတ်က သွားချင်စိတ် မပေါက်မချင်း မသွား ဘူး. . . "



'Oh, Kate do not be angry,' said Petruchio.

'I will be angry!' said angry Katharine. 'You shall stay as long as I wish.' And she turned to the guests. 'Gentlemen,' she said. 'Let us go forward to the dinner. I see a woman may be made a fool, if she does not have the spirit to resist.'

'They shall go forward, Kate, at your command,' said Petruchio. 'Go, gentlemen, feast as my wife tells you. But my pretty Kate must go with me. I will be master of my own wife.

And Kate could do no more. Before she realized what was happening, she found herself riding with petruchio to his home.



"အို. . . **ကေတီ** ရယ် စိတ်မဆိုးပါနဲ့ကွယ်. . . " လို့ **ပက်ထရူချီယို** က ပြောလိုက်တယ်။

"ဆိုးမှာပဲ. . . "လို့ ဒေါသထွက်နေတဲ့ **ကက်သရင်း** က ပြန်ပြောတယ်၊ "ရှင်လည်းပဲ ကျွန်မ နေစေချင် သလောက် နေရမယ်. . . "ပြီးတော့ သူ(မ)က ဧည့်သည်တွေ ဘက်ကို လှည့်လိုက်တယ်၊ "လူကြီးမင်းများရှင်. . . ညစာ စားပွဲသို့ ကြွတော်မူကြပါရှင်။ မိန်းမတစ်ယောက်မှာ ဖီဆန်အာခံနိုင်တဲ့ စိတ်ဓာတ်မရှိရင် ငထုံအအ ဖြစ်သွား မှာပဲ. . . ဆိုတာ ကျွန်မ သဘောပေါက်သွားပြီ. . . "

"သူတို့တွေကတော့. . . မင်းရဲ့ မိန့်မှာချက်အတိုင်း စားသောက်ပွဲကို သွားကြပါလိမ့်မယ်. . . **ကေတီ**၊ လူကြီးမင်း များ ခင်ဗျား. . . ကျွန်တော့်ဇနီးပြောကြားတဲ့ အတိုင်း ကြွရောက်သုံးဆောင်ကြပါခင်ဗျား။ ဒါပေမယ့်. . . ကျွန်တော့် ရဲ့ အချောအလှလေး **ကေတီ** ကတော့ ကျွန်တော်နဲ့ လိုက်ရပါမယ်။ ကျွန်တော်ပိုင်တဲ့ ကျွန်တော့်ဇနီးအတွက် ကျွန်တော်ဟာ အရှင်သခင် အိမ်ထောင်ဦးစီး ဖြစ်ရပါ မယ်. . . "လို့ **ပက်ထရူချီယို** က ပြောလိုက်တယ်။

ဒီတော့. . . **ကေတီ** လည်း ဘာမှမတတ်နိုင်တော့ ပါဘူး၊ ဘာဖြစ်နေတယ်ဆိုတာ သူ(မ)ကိုယ် သူ(မ) မသိ ရခင်မှာဘဲ. . . **ပက်ထရူချီယို** ရဲ့ အိမ်ကိုသူနဲ့အတူမြင်းစီးပြီး ခရီးထွက်နေရတာကို တွေ့ရတော့တာပါပဲ။



It was tiring ride, because Petruchio had chosen the worst roads for their journey, and their horses were old and thin. While they were coming down a steep hill, Katharine's horse fell down in the mud, with Katharine underneath it. Petruchio, instead of helping his wife to get up, began to beat his servant, blaming him for the horse's fall. Katharine struggled up and tried to pull her husband away from the servant, and such a noise and confusion followed! Petruchio shouted, and Katharine argued, and the servant cried for mercy; and when they at last grew calmer they found that the horses had run away. At last the servant caught the horses, and Katharine_tired and hungry, with mud-stained clothes-reached her new home. She was quite sure, by this time, that she had married a madman.

အင်မတန် ပင်ပန်းတဲ့. . . ခရီးကြမ်းပါပဲ။ ဘာကြောင့် ဆိုတော့. . . သူတို့ ခရီးစဉ်အတွက် **ပက်ထရှုချီယို** က အဆိုးဆုံးလမ်းတွေကို ရွေးချယ်ခဲ့တယ်၊ ပြီးတော့ သူတို့ မြင်းတွေက အိုမင်းပြီး. . . ပိန်လှီနေတယ်လေ။ မတ်စောက်တဲ့ တောင်ကုန်းလေးတစ်ခုက ဆင်းလာတုန်းမှာ **ကက်သရင်း** ရဲ့ မြင်းက ရွှံ့နွံထဲမှာ လဲကျတယ်၊ **ကက်သရင်း** ကမြင်းရဲ့အောက် ရောက်သွားတယ်။ ဇနီးဖြစ်သူကို ထနိုင်အောင် ကူညီရမယ့်အစား. . . မြင်း(ခုလို)လဲ. . . ကျရ မလားလို့ အပြစ်တင်ပြီး သူ့အစေခံကို **ပက်ထရှုချီယို** ရိုက်တော့တာပါပဲ၊ **ကက်သရင်း** က ရုန်းကန်လူးလွန့်ပြီး ထရတယ်။ အစေခံကို မရိုက်အောင် လိုက်ဆွဲရတယ်၊ **ပက်ထရှုချီယို** အော်သံဟစ်သံ၊ **ကက်သရင်း** ရဲ့ အခြေအတင် ပြောသံ၊ စေခံရဲ့ အသနားခံ တောင်းပန်သံ၊ ဆူဆူညံညံ ရှုပ်ရှုပ်ထွေးထွေးတွေ ဖြစ်လာတာပေါ့၊ နောက်ဆုံးမှာ. . . သူတို့တွေ ငြိမ်သက်အေးဆေးသွားတဲ့ အခါမှာတော့. . . မြင်းတွေ မရှိတော့ဘူး. . . ထွက်ပြေးသွားပြီဆိုတာ တွေ့ရတယ်။ နောက်ဆုံးမှာတော့. . . အစေခံ က မြင်းတွေကို ပြန်ဖမ်းမိလာလို့ -မောပန်း ဆာလောင်နေတဲ့ **ကက်သရင်း** ဟာ ရွှံ့တွေပေရေနေတဲ့ အဝတ်တွေနဲ့အတူ သူ(မ)ရဲ့ အိမ်အသစ်ကို ရောက်ရှိခဲ့ပါတယ်။ ခုအချိန်မှာတော့ သူ(မ)ဟာ အရူးတစ်ယောက်ကို လက်ထပ်မိခဲ့ပြီဆိုတာ လုံးဝကို ကျိန်းသေသွားပါပြီ။



And her troubles were not yet ended. When the servants came out of the house to welcome them, Petruchio cursed and scolded them all, and Katharine begged him to be more gentle with them.

Supper was brought, and Petruchio criticised every dish. He grumbled that the food was burned and badly cooked, and quite unfit to eat. Katharine could find nothing wrong with it and she was extremely hungry, but Petruchio would not let her eat. No, the meat was bad, he said. It would make her ill. And he threw the food on the floor.



ပြီးတော့ သူ(မ)ရဲ့ ဒုက္ခတွေက မပြီးဆုံးသေးပါဘူး၊ သူတို့ကို ကြိုဆိုဖို့ဆိုပြီး အစေခံတွေ အိမ်ထဲကနေ (ပြေး) ထွက်လာတဲ့အခါ. . . **ပက်ထရူချီယို** က သူတို့ကို ကြိမ်းမောင်းဆဲရေး ဆူပူပစ်လိုက်တယ်၊ အဲဒီတော့. . . အစေခံတွေကို ပိုပြီး နူးနူးညံ့ညံ့ ဆက်ဆံဖို့. . . **ကက်သရင်း** က သူ့ကို တောင်းပန်ရတယ်။

ညစာကိုယူလာတော့. . . **ပက်ထရူချီယို** က ယူလာသမျှဟင်းတိုင်းကို ဝေဖန်အပြစ်တင်တယ်။ အစားအသောက်တွေက တူးချစ်နေတယ်၊ ချက်တာပြုတ်တာက မကောင်းဘူး၊ စားဖို့ရန် လုံးဝကို မသင့်ဘူး စသည်ဖြင့် ဗျစ်တောက် ဗျစ်တောက် ပြောတယ်၊ ညည်းညူ အပြစ်တင်တယ်၊ **ကက်သရင်း** ကတော့ အစားအသောက်တွေမှာ ဘာ ချို့ယွင်းချက်မှ မတွေ့ဘူး၊ ပြီးတော့ သူ(မ)က အရမ်းကို ဆာနေပြီလေ. . .၊ ဒါပေမယ့် **ပက်ထရူချီယို**က သူ(မ)ကို စားခွင့်မပေးဘူး၊ မဟုတ်တာ. . . အသားက ကောင်းမှ မကောင်းတာ. . . သူ(မ)စားမိရင် နေထိုင်မကောင်း ဖြစ်မှာပေါ့ ဆိုပြီး. . . အစားအသောက်တွေကို ကြမ်းပြင်ပေါ် သွန်ချလိုက်တယ်။



Katharine was tired out and nearly in tears, but even when she went to bed she was not allowed to rest. Petruchio continued to find fault with everyting in the bedroom. He said the bed was not fit for her to sleep in, and he threw the bedclothes on the floor. All night long he shouted and complained so loudly that Katharine could not sleep. She did not realize that this was part of Petruchio's plan to cure her of her angry tempers. He intended to show her how miserable it was to live with someone who was continually scolding and grumbling. When she realized this, she would soon mend her bad-tempered ways; but, meanwhile, she was very unhappy.

**ကက်သရင်း** က ပင်ပန်းနွမ်းလျလှပြီ၊ မျက်ရည်တွေတွေကျပြီး ငိုမိတော့မယ့်ဆဲဆဲ ဖြစ်နေပြီ၊ ဒါပေမယ့်. . . သူ(မ) အိပ်ရာဝင်တဲ့အချိန်မှာတောင် သူ(မ)ကို နားခွင့်မပြုပါဘူး၊ အိပ်ခန်းထဲမှာ ရှိတဲ့အရာရာကို **ပက်ထရူချီယို** က ဆက်လက်အပြစ်ရှာတယ်၊ အိပ်ရာက သူ(မ)အိပ်ဖို့ရန်မထိုက်တန်ဘူးဆိုပြီး စောင်တွေ ခေါင်းအုံးတွေ အိပ်ရာအသုံးအဆောင်တွေကို ကြမ်းပြင်ပေါ် ပစ်ချတယ်။ တစ်ညလုံး. . . ကျယ်ကျယ်လောင်လောင် အော်လိုက်ဟစ်လိုက်အပြစ်တင်လိုက်နဲ့ လုပ်နေတော့ **ကက်သရင်း** မအိပ်နိုင်ပါဘူး၊ ဒါဟာဖြင့် သူ(မ)ရဲ့ ဒေါသမာန်ပွားတဲ့ စိတ်ဓာတ်ကို ကုစားဖို့ **ပက်ထရူချီယို** ရဲ့ စီမံကိန်း တစ်စိတ်တစ်ဒေသ ဖြစ်တယ်ဆို တာကို သူ(မ) သိရှိသဘောပေါက်ခြင်း မရှိခဲ့ပါဘူး။ အမြဲတမ်း အဆက်မပြတ် ကြိမ်းမောင်းမာန်မဲ. . . မကျေမနပ် ဗျစ်တောက်ဗျစ်တောက် ပြောတတ်တဲ့ လူတစ်ယောက်. . . နဲ့ နေရတာဟာ ဘယ်လောက်ထိ စိတ်မချမ်းမြေ့ဖွယ်ကောင်းတယ်ဆိုတာ သူ(မ) သိရှိသွားအောင်ပြသဖို့. . . သူက ရည်ရွယ်တယ်။ အဲဒီလို သိရှိသဘောပေါက်သွားရင်. . . သူ(မ)ရဲ့ မကောင်းတဲ့ အမူအကျင့်တွေကို. . . သူ(မ)ချက်ချင်းမကြာ. . . ပြင်မှာပါပဲ။ ဒါပေမယ့် အခုလောလောဆယ်တော့. . . သူ(မ)ဟာ အလွန်စိတ်မချမ်းမြေ့ ဖြစ်ရပါတယ်။



Next day, Petruchio behaved in the same way- always speaking gently to his wife, but making everything as uncomfortable for her as he could. By this time she was so hungry that she begged a servant to bring her some food; but he made excuses and at last he told her that he dare not bring her food without his master's orders.

'Did he marry me to starve me?' Ktharine asked angrily. 'Beggars who come to my father's door are given food. But I, who do not know how to beg, am starved for meat, and tired from lack of sleep. I was kept awake all night by Petruchio's shouting. And it annoys me most of al that he pretends to do all this because he loves me.'

နောက်နေ့မှာလည်း **ပက်ထရူချီယို** က ဒီနည်းအတိုင်း ပြုမူဆက်ဆံတာပါပဲ။ သူ့ဇနီးကိုတော့ အမြဲတမ်း နူးနူးညံ့ညံ့ ကြင်ကြင်နာနာ ပြောဆိုဆက်ဆံပါတယ်၊ ဒါပေမယ့်. . . အရာရာကိုတော့. . . သူ(မ) သက်သောင့်သက်သာ မရှိအောင် အတတ်နိုင်ဆုံး လုပ်တယ်။ အခုချိန်မှာ သူ(မ)က သိပ်ဆာလွန်းတာကြောင့် အစားအသောက် အနည်းငယ် ယူလာပေးပါ. . . လို့ အစေခံတစ်ယောက်ကို တောင်းပန်တယ်၊ ဒါပေမယ့်. . . သူ က(အစားအသောက် ယူမလာဘဲ) ဆင်ခြေဆင်လက်တွေပဲ ပေး(နေ)တယ်၊ နောက်ဆုံးကျတော့မှ. . . သူ့ဆရာရဲ့ အမိန့်မရဘဲနဲ့ အစားအသောက် ကို ယူမလာရဲပါဘူး လို့ သူ(မ)ကို ပြောပြတယ်။

"သူ က ငါ့ကို အငတ်ထားဖို့ လက်ထပ်တာလား. . . ?" **ကက်သရင်း** က ဒေါသတကြီး မေးလိုက်တယ်။ "ငါ့အဖေရဲ့ အိမ်တံခါးဝနားလာတဲ့ သူတောင်းစားတွေကိုတောင်မှ အစားအသောက်တွေ ပေးပါတယ်၊ ဘယ်လိုတောင်းရမယ် မှန်း မသိတဲ့. . . ငါ့မှာတော့ အစာမစားရလို့ ငတ်မွတ်တယ်၊ မအိပ်ရလို့ မောပန်းတယ်၊ **ပက်ထရူချီယို** အော်ဟစ်နေတာကြောင့် တစ်ညလုံး မအိပ်ရဘူး၊ ငါ ဒေါသအထွက်ဆုံး စိတ်အနှောင့်အယှက် အဖြစ်ဆုံးအရာက. . . အဲဒီလို လုပ်တာဟာ ငါ့ကိုချစ်လို့ လုပ်တာပါလို့ ဟန်ဆောင်တာကို. . . ပဲ"



Just then Petruchio came in, carrying a dish of meat.

'How are you, my sweet Kate?' he asked. 'See how much I think about your comfort. I myself have cooked some food for you.'

Katharine did not answer.

'No thanks?' said Petruchio. 'What, not a word? Perhaps you do not like the food?' And he ordered the servant to take the meat away.

'No! No! Let it stay!' cried Katharine, who was weak with hunger.

'The poorest service is repaid with thanks; and you must thank me before you touch the meat,' said Petruchio.

အဲဒီနောက်. . . အသား တစ်ပန်းကန်ကို သယ်ဆောင်လာရင်းနဲ့ **ပက်ထရူချီယို** အခန်းထဲကို ဝင်လာတယ်။

"နေကောင်းတယ်နော်. . . အချစ်ကလေး **ကေတီ?**" လို့ သူ က မေးလိုက်တယ်။ "ကဲ. . . ကြည့်ပါဦး၊ ကိုယ်ကမင်းရဲ့ ကိုယ်စိတ်နှစ်ဖြာချမ်းသာမှုကို ဘယ်လောက်ထိစဉ်းစားသလဲဆိုတာ ငါ. . . ကိုယ်တိုင် မင်းအတွက် အစားအသောက်တွေ ချက်လာတာ. . "

**ကက်သရင်း** က ပြန်မဖြေဘူး. . .

"ကျေးဇူး မတင်ဘူး. . . ဟုတ်လား?" "ဘာကွ. . . စကားတစ်လုံးတောင် မပြောဘူး. . . ဟုတ်လား?" ဒီ အစားအသောက်ကို မင်း မကြိုက်လို့ဖြစ်မယ် ဟုတ်လား. . . ?" လို့ **ပက်ထရူချီယို** က ပြောပြီး၊ သူ့အစေခံကို အစားအသောက်တွေ ယူသွားတော့ လို့ အမိန့်ပေးလိုက်တယ်။

"မဟုတ်ပါဘူး. . . မဟုတ်ပါဘူး. . ထားပါ. . . ထားပါ" လို့ ဆာလွန်းလို့ အားကုန်နေတဲ့ **ကက်သရင်း** က အော်လိုက်တယ်။

"အညံ့ဖျင်းဆုံး အကူအညီ၊ ဝန်ဆောင်မှုလေးကိုတောင် ကျေးဇူးတရားနဲ့ ပြန်လည်ပေးအပ်တုံ့ပြန်ကြရပါတယ်၊ ဒီတော့ ဒီအစားအသောက်ကို မင်း မထိမကိုင်မီကိုယ့်ကို ကျေးဇူးတင်စကား ပြောရမယ်. . . " လို့ **ပက်ထရူချီယို** က ဆိုတယ်။



'I Thank you, sir,' said Katharine miserably, and Petruchio allowed her to have a little of the meat. But before she had finished he pretended to think that she had had enough, and told the servant to take the dish away.

He then sent for a tailor to bring some clothes which he had ordered for her. The tailor showed Katharine a beautiful cap.

'What a cap!' said Petruchio. 'It is much to small. It is like a baby's cap! Come, let us have a bigger one.'

'I do not wnat a bigger one!' cried poor Katharine. 'This one is the fashion, and gentle-women wear such caps as these.'



"ကျွန်မ က ရှင့်ကို ကျေးဇူးတင်ပါတယ်တဲ့ ရှင်. . ." လို့ **ကက်သရင်း** စိတ်မချမ်းမြေ့စွာနဲ့ ပြန်ပြောမှ. . . **ပက်ထရူချီယို** က သူ(မ)ကို (အစားအသောက်) အသား နည်းနည်းစားခွင့်ပြုတယ်။ ဒါပေမယ့်. . . သူ(မ) စားလို့ မပြီးခင်မှာဘဲ. . . သူ(မ) ဝ သွားပြီလို့ ထင်တဲ့ ဟန်ဆောင်ပြီး. . . အစားအသောက်ပန်းကန်ကို ယူသွားတော့. . . လို့ အစေခံကို အမိန့်ပေးလိုက်တယ်။

အဲဒီနောက် အပ်ချုပ်သမားကို ခေါ်လိုက်တယ်။ သူ(မ)အတွက် သူ မှာကြားထားတဲ့ အဝတ်အစားတွေ ယူလာခဲ့ဖို့ ပြောတယ်၊ အပ်ချုပ်သမား က **ကက်သရင်း** ကို လှပတဲ့ ကက်ဦးထုပ် တစ်လုံးပြတယ်။

"ဘယ်လို ဦးထုပ်ကြီးလဲကွ၊ သေးလွန်းလိုက်တာကွာ၊ ကလေးဆောင်း ဦးထုပ်ကလေး ကျနေတာပဲ၊ လာစမ်းပါ ဒီ့ထက်ကြီးတဲ့ ဦးထုပ်တစ်လုံး ယူရအောင်ပါ. . ." လို့ **ပက်ထရူချီယို** က ပြောတယ်။

"ဒီ့ထက်ကြီးတဲ့ဦးထုပ်ကို ကျွန်မ မလိုချင်ပါဘူး!" လို့ **ကက်သရင်း** က အော်ပြောတယ်။ "ဒီဦးထုပ်ကလေးက မှ ခေတ်ဆန်တယ်. . .၊ ဂုဏ်သရေရှိ အမျိုးကောင်းသမီးတွေဟာ ဒီလို ဦးထုပ်မျိုးတွေကိုမှ ဝတ်တာရှင့်"



'When you are gentle, you shall have one, too,' replied her annoying husband.

Katharine lost her temper.

'I hope I may have permission to speak, and speak I will' she cried. 'I am no child, no baby, to be treated like this. Other people have listened to me, and, if you cannot, you had better stop your ears.'

'It is quite true what you say,' said Petruchio. taking absolutely no notice of her words. 'It is a silly cap. I love you because you do not like it.'

'Love me or love me not,' said katha-rine. 'I like that cap and I will have it!'

"အေး. . . မင်း ဂုဏ်သရေရှိလာတဲ့အခါ. . . မင်းလည်း ဒီလို ဦးထုပ်မျိုးတစ်လုံး ရ ရ မှာပေါ့. . . "လို့ စိတ်တိုသွားတဲ့ ခင်ပွန်းသည် က ပြန်ပြောလိုက်တယ်။

**ကက်သရင်း** ကလည်း စိတ်တို. . . ဒေါသထွက်သွားတယ်။

"ကျွန်မမှာ စကားပြောခွင့်လေးတော့ ရှိနိုင်တယ်လို့. . . ထင်ပါတယ်၊ ဒီတော့ ကျွန်မ စကားပြောရမယ်!" လို့ အော်လိုက်တယ်၊ "ဒီလို ဆက်ဆံရအောင် ကျွန်မက သူငယ်နုပ်စား မဟုတ်ဘူး၊ နို့စို့အရွယ်ကလေးလည်း မဟုတ်ဘူး၊ အခြားလူတွေလည်း ကျွန်မ စကားပြောရင် နားထောင်ကြတယ်၊ ဒီတော့ ရှင် နားမထောင်နိုင်ဘူးဆိုရင် ရှင့်နားတွေကို ရှင် ပိတ်ထားပေါ့. . . "

**ပက်ထရူချီယို** က သူ(မ)ရဲ့ ပြောစကားတွေကို လုံးဝ ဂရုမစိုက် အလေးမထားဘဲ "မင်းပြောတာ ဟုတ်လိုက်လေကွာ. . .၊ ဒီဟာဟာ တကယ်ကို မကောင်းတဲ့ ဦးထုပ်ပဲ. . .၊ အဲဒါ ကို မင်းမကြိုက်ဘူး ဆိုလို့. . . မင်းကို ကိုယ် က ချစ်နေရတာ. . . "လို့ ပြောတယ်

"ကျွန်မကို ချစ်ချင် ချစ်၊ မချစ်ချင် နေ. . .၊ ဒီကက်ဦးထုပ် ကို ကျွန်မ ကြိုက်တယ်. . . ကျွန်မ ယူမယ်. . . " လို့ **ကက်သရင်း** က ပြန်ပြောတယ်။



Take it away, tailor, we do not want it,'said Petruchio.'Now, let us see the dress.' He picked up the dress and examined it. 'Oh, what cheap material!' he went on. 'What in the world, tailor, do you call this? You have cut the cloth so badly that the dress is spoiled.'

'I have never seen a nicer dress,' said Katharine. 'I admire it in every way.'

But Pertuchio would not listen to her, and told the tailor to take the clothes away. Privately he told the servants to keep the dress and cap for Katharine, and to pay the tailor's bill; but he said to Katharine: 'Well, come, my Kate. We shall have to go to your father's house in the poor clothes we are wearing now.'



"ကဲ. . . အပ်ချုပ်သမား. . . ဒီ ဦးထုပ်ကို ယူသွားတော့ (သိမ်းလိုက်တော့)၊ ကျွန်တော်တို့ နှစ်ယောက်လုံး အဲဒါကို မကြိုက်ဘူးဗျ. . . " လို့ **ပက်ထရူချီယို** က ပြောလိုက်တယ်။ "ကဲ. . . အခု. . . ဝတ်စုံလေးကို ကြည့်ရအောင်" ဆိုပြီး ဝတ်စုံကို ကောက်ယူ . . . စစ်ဆေးကြည့်ရှုတယ်၊ "အိုး. . . အပေါစားကြီး ပါလား! လောကကြီးမှာ. . ဒါမျိုးကို ဘာလို့ ခေါ်သလဲ. . . ? အဝတ်စကို ခင်ဗျားက ဆိုးဆိုးဝါးဝါး ညှပ်တော့. . . ဝတ်စုံတော့ ပျက်စီးပါပြီ. . . " လို့ ဆက်ပြောတယ်။

"ဒီလောက်ကောင်းတဲ့ ဝတ်စုံမျိုး ကျွန်မတစ်ခါမှ မမြင်ဖူးဘူး၊ ဒီ ဝတ်စုံလေးကို လုံးဝသဘောကျတယ်. . . " လို့ **ကက်သရင်း** က ဆိုတယ်

ဒါပေမယ့်. . . **ပက်ထရူချီယို** က သူ(မ)ပြောစကားကို နားမထောင်ဘူး၊ အဝတ်အစားတွေကို ယူသွားတော့လို့ အပ်ချုပ်သမားကို ပြောလိုက်တယ်၊ ဒါပေမယ့်. . . အဲဒီ ဝတ်စုံနဲ့ ဦးထုပ်ကို **ကက်သရင်း** အတွက် သိမ်းထားလိုက်ဖို့ နဲ့ ကျသင့်ငွေကို အပ်ချုပ်သမားသို့ပေးဖို့ သူ့ရဲ့ အစေခံတွေကို တိတ်တိတ်ကလေး. . . မှာတယ်။

ဒါပေမယ့်. . . **ကက်သရင်း** ကိုတော့ "ကဲ. . . လာပါဦး **ကေတီ** လေးရယ်. . . ဒို့တွေ အခုဝတ်ထားတဲ့ အဝတ်အစား ခပ်စုတ်စုတ်တွေနဲ့ပဲ. . မင့်ဖခင်ကြီးရဲ့ အိမ်ကို သွားကြပါစို့. . . " လို့ ပြောလိုက်တယ်။



He ordered the servants to bring the horses, saying that it was now seven o'clock and they would easily reach Baptista's house in time for dinner. But the time was really two o'clock in the afternoon, and Katharine told him so.

'It will be supper-time before we arrive there,' she said gently.

'You argue with everyting I say! said Petruchio crossly. 'All right. I shall not go today. But when I go, the time will be whatever I say it is.'

Next day, Katharine had learned her lesson and she did not argue with Petruchio about the time of day. They set out on horseback to her father's house. After some time they decided to get down from their horses and rest. It was a lovely morning: the sun was shining, and there was not a cloud in the sky.

သူ က သူ့ရဲ့ အစေခံတွေကို မြင်းတွေယူလာခဲ့ဖို့ အမိန့် ပေးတယ်၊ အခု (၇) နာရီ ထိုးပြီဆိုတော့ **ဘက်ပ် တစ်စ်တာ** ရဲ့ အိမ်ကို **ညနေစာ** စားချိန်အမီ အလွယ်တကူ ရောက်သွားမှာပါ. . . လို့ ပြောရင်းနဲ့လေ။ ဒါပေမယ့်. . . တကယ့်အချိန်က နေ့လည် (၂)နာရီပဲ ရှိသေးတယ်၊ ဒါကြောင့် **ကက်သရင်း** ကလည်း (၂)နာရီ ဆိုတာကို ပြောပြတယ်။

"အဲဒီကို မရောက်မီ **ညစာ** စားချိန် ဖြစ်နေမှာပေါ့. . ." လို့ သူ(မ)က ညင်သာသိမ်မွေ့စွာပဲ ပြောပါတယ်။

"မင်း က ငါပြောရင် . . . ဘာမဆိုလိုက်ပြီး ဆန့်ကျင် ငြင်းချက်ထုတ်နေတာပဲ. . .!"လို့ **ပက်ထရူချီယို** က စိတ်တိုတိုနဲ့ ပြောလိုက်တယ်။ "ကောင်းပြီလေ. . . ငါ ဒီနေ့ မသွားတော့ဘူး၊ ဒါပေမယ့်. . . ငါ သွားတဲ့အခါ ငါ သွားတဲ့ အချိန်ဟာ ငါပြောတဲ့ အချိန်ပဲ ဖြစ်ရမယ်. . ."

နောက်တစ်နေ့မှာတော့ **ကက်သရင်း** က သင်ခန်းစာ ရခဲ့ပြီလေ. . .၊ အချိန်နဲ့ ပတ်သက်ပြီး **ပက်ထရူချီယို** နဲ့ အငြင်းအခုံ မလုပ်တော့ဘူး၊ သူ့ဖခင်ရဲ့ အိမ်ကို မြင်းစီးပြီး ခရီးထွက်ခဲ့တယ်၊ အချိန်အနည်းငယ်ကြာတော့. . . မြင်းတွေ ပေါ်က ဆင်းပြီး နားကြမယ်လို့ ဆုံးဖြတ်ကြတယ်၊ သာယာ လှပတဲ့ နံနက်ခင်းလေးပါပဲ။ နေမင်းက သာနေတယ်၊ ကောင်းကင်က မိုးသားတိမ်လိပ် တစ်ခုတောင်မရှိဘဲ. . . တိမ်ကင်းစင်နေပါတယ်. . .



'How brightly the moon is shining, said Petruchio.

'The moon?' said Katharine. 'The sun, you mean! It is not moonlight now.'

'I say it is the moon that shines so brightly,' Petruchio repeated.

'I know it is the sun,' Katharine insisted unwisely.

'Now, by my mother's son (and that's my-self),' said Petruchio, 'it shall be moon, or star, or what I please, before I travel to your father's house.'

'I shall never be able to please this man!' thought Katharine sadly.

'Let us go forward!' she said to Petruchio. 'It shall be the moon, or the sun, or whatever you please. I will not argue with you.'

'I say, then, it is the moon,' said petruchio again.

"ဟာ. . . သာလိုက်တဲ့. . . လ. . . ကွာ"လို့ **ပက်ထရူချီယို** က ပြောလိုက်တယ်။

"လ သာတယ်. . . ဟုတ်လား?၊ ရှင်. . . နေကို ပြောတာလား၊ အခု သာနေတာ လရောင်မှ မဟုတ်တာ. . ." လို့ **ကက်သရင်း** က ဆိုတယ်။

"ဒီလောက် အရမ်းကို သာနေတာ လ လို့ ငါ ပြောနေတာပဲ. . ." **ပက်ထရူချီယို** က ထပ်ပြောတယ်။

"ကျွန်မ က 'နေ' လို့ သိနေတာပဲ" လို့ **ကက်သရင်း** က ပါးနပ်လိမ္မာမှု မရှိဘဲ ဇွတ်အတင်း ပြန်ပြောတယ်။

"ကဲ. . . ခု ငါ့အမေရဲ့သား(အဲဒါ ငါကိုယ်တိုင်) က. . . လ ဖြစ်ချင်ဖြစ်မယ်. . . ကြယ် ဖြစ်ချင်ဖြစ်မယ်၊ ဒါမှမဟုတ် ဘာဖြစ်ဖြစ် မင်းအဖေရဲ့အိမ်ကိုမသွားခင်မှာ. . . ငါ ဖြစ်ချင်တာ ဖြစ်မယ်" လို့ **ပက်ထရူချီယို** က ပြောတယ်

"ဒီလူ ကျေနပ်အောင်လုပ်ဖို့ ငါ ဘယ်တော့ မှ တတ်နိုင်မှာ မဟုတ်တော့ပါဘူး"လို့ **ကက်သရင်း** က ကြေကွဲဝမ်းနည်းစွာနဲ့ တွေး(နေ)မိတယ်။

"ကဲ. . . ခရီး ဆက်ကြပါစို့. . ." လို့ **ကက်သရင်း** က **ပက်ထရူချီယို** ကို ပြောလိုက်တယ်၊ "လ ဖြစ်ဖြစ်. . . နေ ဖြစ်ဖြစ်. . . ရှင့်စိတ်ကြိုက် ဘာပဲဖြစ်ချင်တာဖြစ် ကျွန်မ ရှင်နဲ့ဖက်ပြီး မငြင်းတော့ပါဘူးရှင်. . ."လို့ **ကက်သရင်း**က **ပက်ထရူချီယို** ကို ပြောလိုက်တယ်။

"ဒီလိုဆိုရင်. . . ဒါဟာ. . . လ လို့ ငါပြောတယ်ကွာ" လို့ **ပက်ထရူချီယို** က ထပ်ပြောတယ်။



'I know it is the moon,' answered Katharine.

'No, then, you lie. It is the blessed sun,' said her husband.

'All right, it is the blessed sun,' said Katharine in despair. 'I will agree with everyting you say.'

Presently and old gentleman came along the road, and-to test katharine's new obedience- Petruchio said to the old man:

'Good morning, gentle lady.' Then, turning to Katharine, he remarked: 'Tell me truly, sweet Kate, did you ever see a fairer lady?'

He praised the old gentleman's soft, fair skin, and said his eyes were like stars.

"ဟုတ်ကဲ့. . . လ. . . မှန်း ကျွန်မ သိပါပြီရှင်" လို့ **ကက်သရင်း** က ပြန်ဖြေတယ်။

"မဟုတ်ဘူးကွ. . . မင်း လိမ်တာ၊ အဲဒါဟာ မင်္ဂလာ အပေါင်း ခဆောင်းတဲ့ နေမင်းကြီးပဲ. . . "လို့ သူ(မ)ရဲ့ ခင်ပွန်းသည် က ပြောပြန်တယ်။

"ကောင်းပါပြီ . . . မင်္ဂလာအပေါင်း ခဆောင်းတဲ့ နေမင်းကြီးပါပဲ. . . " လို့ **ကက်သရင်း** က စိတ်ပျက်လက်ပျက် ပြန်ပြောတယ်။ "ရှင် ပြောသမျှအရာရာကို ကျွန်မ သဘောတူပါ့မယ် ရှင်. . . "

မကြာမီမှာ. . . လူကြီးလူကောင်း အဘိုးအိုတစ်ယောက် လမ်းလျှောက်ပြီး လာတယ်။ **ကက်သရင်း** ရဲ့ နာခံမှု အသစ်ကို စမ်းသပ်ချင်လို့ **ပက်ထရူချီယို** က အဘိုးအိုကို လှမ်းပြီး နှုတ်ဆက်လိုက်တယ်။

"မင်္ဂလာ နံနက်ခင်းပါ. . . ဂုဏ်သရေရှိ အမျိုးကောင်း သမီးကြီးခင်ဗျာ. . . "ပြီးတော့ **ကက်သရင်း** ဘက် လှည့်လိုက် ပြီး "ကဲ. . . ကိုယ့်ကို မှန်မှန်ပြောနော်. . . အချစ်ကလေး **ကေတီ** အလှပိုတဲ့ အမျိုးသမီးကြီးကို မင်းတွေ့တယ် မဟုတ်လား. . . ?" လို့ ဝေဖန်ပြောဆိုတယ်။

သူ(က) အဘိုးအိုရဲ့. . . ပျော့ပျောင်းနူးညံ့ဖြူစင်တဲ့ အသားအရေကို ချီးကျူးတယ်။ ပြီးတော့ သူ့မျက်လုံးကလေး တွေဟာ ကြယ်လေးတွေလိုပဲ. . . လင်းလက်လှပတယ် လို့ ဆိုတယ်။



'Sweet Kate, kiss this lovely maid, for her beauty's sake,' he said.

Katharine had really learned her lesson this time.

'Fair, fresh, and sweet young maid,' she said solemnly to the old man, 'Where are you going? Where is your home? How happy your parents must be, to have so fair a child.'

The old man looked at her in great astron-ishment, and Petruchio said sharply: 'Why, now, Kate-I hope you are not mad. This is an old man, and not a young girl, as you say he is.'

'Forgive me, old father,' said Kate. 'The sun was shining in my eyes and I could not see you properly. Please excuse my mad mistake.'



အချစ်ကလေး **ကေတ** ဒီလိုလှပတဲ့ မိန်းမငယ်လေးကို သူ(မ)ရဲ့ အလှအပအတွက်. . . မွှေးမွှေးပေးလိုက်ပါလား ကွယ်. . . " လို့ ပြောတော့. . .

ဒီ အကြိမ်မှာတော့. . . **ကက်သရင်း** က တကယ့်ကို သင်ခန်းစာ ရခဲ့ပြီလေ. . .၊

" လှပ လန်းဆန်း ချိုသာတဲ့ မိန်းမငယ်လေးပေပဲ. . . " "ဘယ်များ သွားမလို့ပါလဲရှင်. . . ? ရှင့်အိမ်က ဘယ်မှာပါ လဲ. . . ?ဒီလောက်လှပတဲ့ သူငယ်(မ)တစ်ယောက်ကို ရထား လို့. . . ရှင့်ရဲ့မိဘတွေက ဘယ်လောက်များ ဝမ်းသာလိုက် လေမလဲ. . . ?"လို့ သူ(မ)က ခပ်တည်တည်နဲ့ အဘိုးအိုကြီး ကို ပြောလိုက်တယ်။

အရမ်းကို အံ့အားသင့်ပြီး. . . အဘိုးအိုကြီးက သူ(မ)ကို ကြည့်လိုက်တယ်၊ ဒီတော့ **ပက်ထရူချီယို** က ချက်ချင်းပဲ ပြောလိုက်တယ်။ "အခု. . . ဘာဖြစ်ရပြန်တာလဲ **ကေတီ**. . . မင်း မရူးဘူးလို့ ငါ ထင်ပါတယ်၊ ဒါက အဘိုးအိုကြီး တစ်ယောက်ကွ. . .၊ မင်းပြောသလို. . . သူ က မိန်းမငယ်လေး တစ်ယောက် မဟုတ်ဘူး. . . "

"ခွင့်လွှတ်ပါ အဘိုးရယ်၊ နေရောင်ကြောင့်. . . ကျွန်မ ရဲ့ မျက်စိတွေစူးပြီး. . . အဘိုးကို ကောင်းကောင်း မမြင်ရ လို့ပါ။ ကျွန်မရဲ့ ရူးသွပ်တဲ့အမှားကို ကျေးဇူးပြုပြီး ခွင့်လွှတ် ပါ. . . " လို့ **ကေတီ** က တောင်းပန်တယ်။



The old gentleman, wose name was Vincentio, replied that he was going go Padua, and he joined them on their journey. He told them he was visiting his son, Lucentio, who was going to marry Ka-tharine's lovely sister, Bianca. (Petruchio's friend, the musician Hortensio, had been unsuccessful with Bianca, but had already married another woman.)

Katharine and Petruchio and the old man arrived just in time for Bianca's marriage feast, and petruchio was delighted to find that Hortensio was also there with his newly-married wife. When the meal was finished and the ladies had left the room, the men began to joke with Petruchio about his bad-tempered wife. Even Baptista said to him sadly: 'Indeed I think, son Petruchio, that you have married the worst shrew of them all.'

အဲဒီ လူကြီးလူကောင်း အဘိုးအိုရဲ့နာမည်က **ဗင်ဆန်တီယို** လို့ ခေါ်တယ်၊ သူက **ပဒ္ဒျူအာ** ကို သွား မလို့ပါ လို့ ပြန်ပြောတယ်၊ အဲဒီ ခရီးစဉ်မှာ (သူလည်း) သူတို့နဲ့အတူတူ လိုက်ပါတယ်။ **ကက်သရင်း** ရဲ့ လှပတဲ့ ညီမလေး **ဘီယင်ကာ** နဲ့ လက်ထပ်မယ့်. . . သားဖြစ်သူ **လူစင်တီယို** ဆီ သွားမလို့. . . လို့ သူ က ပြောပြတယ်။ (**ပက်ထရူချီယို** ရဲ့ သူငယ်ချင်း ဂီတသမား **ဟော်တင်ဆီယို** က **ဘီယင်ကာ** ရဲ့ မေတ္တာကို ရရှိဖို့ မအောင်မြင်ခဲ့ဘူး၊ ဒါပေမယ့်. . . သူ က အခြား မိန်းမတစ်ယောက်နဲ့ လက်ထပ်သွားပြီး. . . ဖြစ်တယ်)

**ကက်သရင်း** . . . **ပက်ထရူချီယို** နဲ့ အဘိုးအိုတို့ဟာ **ဘီယင်ကာ** ရဲ့ မင်္ဂလာစားသောက် (ဧည့်ခံ)ပွဲကို. . . အချိန်မီ တယ် ဆိုရုံကလေး ရောက်ရှိသွားကြတယ်။ **ဟော်တင်ဆီယို** ကို သူ့ရဲ့ လက်ထပ်ပြီးကာစ ကြင်စဦးဇနီးလေးနဲ့အတူ တွေ့ရလို့ **ပက်ထရူချီယို** က ဝမ်းသာကျေနပ်သွားတယ်၊ စားသောက်ပြီးကြတဲ့အခါ. . . အမျိုးသမီးတွေက အခန်းထဲ ကနေ ထွက်ခွာသွားကြတယ်၊ (ယောက်ျားတွေချည်း ကျန်တဲ့အခါ) ကျန်တဲ့ ယောက်ျားတွေက **ပက်ထရူချီယို** ကို သူရဲ့ သဘောထားဆိုးတဲ့ ဇနီးနဲ့ ပတ်သက်ပြီး နောက်ပြောင်ကြတယ်။ (ဖခင်ဖြစ်သူ) **ဘက်ပ်တစ်စ်တာ** ကတောင်မှ "သားကြီး **ပက်ထရူချီယို** ရယ် တကယ်ပါပဲ. . . ငါ့အထင် မင်းဟာ အဆိုးတကာ့အဆိုးဆုံး နှုတ်သီးကောင်း လျှာပါးကိုမှ လက်ထပ်မိခဲ့တာပဲနော်" လို့ စိတ်မကောင်း စွာနဲ့ ပြောရှာတယ်။



'And I say no!' said Petruchio boldly. 'And we will prove it. Let each man send for his wife, and we will see whose wife is most obedient.'

Lucentio and Hortensio gladly agreed to do this, both being confident of their gentle wives' obedience. Lucentio first sent a servant to ask Bianca to come.



“(ကျွန်တော့်မိန်းမဟာ နှုတ်သီးကောင်းလျှာပါး) မဟုတ်ဘူး. . . လို့ ကျွန်တော် ပြော(ရဲ)တယ်” လို့ **ပက်ထရူချီယို** က ရဲရဲကြီး ပြန်ပြောတယ်။ “ကျွန်တော်တို့ သက်သေပြရအောင်လေ၊ ယောက်ျားတစ်ယောက်ဆီက သူတို့ရဲ့ ဇနီးမယားတွေကို ခေါ်ကြည့်ပါစေ၊ ဒီတော့ ဘယ်သူ့ဇနီးမယားဟာ အရိုသေဆုံး အကျိုးနွံဆုံးဖြစ်တယ်ဆိုတာ တွေ့ကြရပါလိမ့်မယ်”

**လူစင်တီယို** နဲ့ **ဟော်တင်ဆီယို** တို့က ဒီကိစ္စကို ဝမ်းမြောက်ဝမ်းသာ သဘောတူကြတာပေါ့၊ သူတို့နှစ်ယောက်လုံးက သူတို့ရဲ့ နူးညံ့သိမ်မွေ့တဲ့ ဇနီးမယားတွေရဲ့နာခံမှုကို ယုံကြည်ချက်ရှိကြတယ်လေ။ **လူစင်တီယို** က သူ့ဇနီး **ဘီယင်ကာ** ကို သူ့ဆီလာဖို့ . . သူ့အစေခံကိုလွှတ်ပြီး ပထမဦးဆုံး ပြောခိုင်းတယ်။



In a few minutes, however, the servant returned alone.

'My mistress sends you word that she is busy and cannot come,' he said.

'She is busy and she cannot come! Is that an answer?' laughed petruchio. But they told him to wait his turn; his wife would send him a worse answer.

Next, Hortensio siad to his servant:

'Go and beg my wife to come to me,'

'Oh ho! Beg her!' said Petruchio. 'Of course she will come if you beg her to do so.'

'I am afraid, sir,' said Hortensio, 'that your wife will not come, even if you beg her.'

ဒါပေမယ့် မိနစ်အနည်းငယ်ကြာတော့. . . အစေခံ တစ်ယောက်တည်း ပြန်လာတယ်။

"ကျွန်တော့်သခင်မ က သတင်းစကား ပါးလိုက်ပါတယ်၊ အလုပ်တွေ ရှုပ်နေလို့ . . . မလာနိုင်ပါဘူး. . . တဲ့" လို့ အစေခံက ပြန်ပြောတယ်။

"အလုပ်တွေ ရှုပ်နေလို့. . . မလာနိုင်ဘူး. . . တဲ့၊ အဲဒီလို ဖြေလိုက်တယ်. . . ဟုတ်လား?"လို့ပြောပြီး **ပက်ထရူချီယို** က (ဟားတိုက်ပြီး) ရယ်ပါတယ်၊ ဒါပေမယ့်. . . သူ့အလှည့် ကို စောင့်ကြည့်ပါဦး. . .၊ သူ့မိန်းမဆိုရင် ဒီ့ထက်ဆိုးတဲ့ အဖြေကို ပေးပါလိမ့်မယ်. . . လို့ သူတို့က ပြောလိုက်ကြ တယ်။

အဲဒီနောက် **ဟော်တင်ဆီယို** က သူ့အစေခံကို ပြော လိုက်တယ်။

"ငါ့မိန်းမဆီသွားပြီး ငါ့မိန်းမကို ငါ့ဆီလာဖို့ တောင်းပန်လိုက်ပါ"

"အိုး. . . ဟိုး. . . တောင်းပန်ရမယ်. . . ဟုတ်စ၊ ခင်ဗျားက တောင်းပန်နေမှတော့ သူ(မ)က လာကောင်းလာမှာပေါ့" လို့ **ပက်ထရူချီယို** က ပြောတယ်။

"အေးပါဗျာ. . . ခင်ဗျားအလှည့်ရောက်လို့. . . ခင်ဗျားက ခင်ဗျားရဲ့ဇနီးကို တောင်းပန်ပါတယ်ဆိုတာတောင် လာပါ့ မလားဆိုတာတော့ ကျွန်တော် စိုးရိမ်မိပါသေးတယ်" လို့ **ဟော်တင်ဆီယို** က ပြောလိုက်တယ်။



But Hortensio's servant also returned alone.

'Where is my wife?' asked Hrortnsio in suprise.

'She says you must be joking,' answered the servant. 'she will not come. She says you must go to her.'

'Worse and worse; she will not come!' said Petruchio. 'Oh, this is not to be endured!' He turned to his servant and said: 'Go to my wife and tell her that I command her to come to me.'

'I know what her answer will be,' said Hortensio.

'What will it be?' Petruchio asked him.

'She will not come,' he answered. But he had hardly spoken when Katharine's father cried out in surprise.

ဒါပေမယ့် **ဟော်တင်ဆီယို** ရဲ့ အစေခံကလည်း တစ်ယောက်တည်း ပြန်လာတယ်။

"ငါ့ဇနီးရောကွ. . . ?"လို့ **ဟော်တင်ဆီယို** က တအံ့တဩ မေးလိုက်တယ်။

"သခင်က နောက်နေတာဖြစ်ရမယ်. . . လို့ သူ(မ)က ပြောတယ်၊ (ဒါကြောင့်) သူ(မ)တော့ မလာဘူး၊ သခင်က သာ သူ(မ)ဆီလာရမယ် . . . ပြောပါတယ်"လို့ အစေခံက ပြန်ဖြေတယ်။

"ဆိုးသထက်ဆိုးပါလားဟေ့. . ၊ သူ(မ)က မလာဘူးတဲ့လား. . . အိုး. . . ဒီကိစ္စဟာ သည်းခံနိုင်ဖွယ် ကောင်းတဲ့ကိစ္စမဟုတ်ပါလား. . !"လို့ **ပက်ထရူချီယို** က ပြောလိုက်တယ်၊ ပြီးတော့ သူ့အစေခံဘက်ကိုလှည့်ပြီး "ငါ့မိန်းမဆီကိုသွားပြီး ပြောလိုက်ကွာ . . . သူ(မ)ကို ငါ့ဆီလာဖို့ ငါအမိန့်ပေးလိုက်တယ်" လို့ ပြောခိုင်းလိုက်တယ်။

"သူ(မ)ရဲ့ အဖြေ. . . ဘာဖြစ်မယ်ဆိုတာ ကျွန်တော်တော့ သိပြီးသား. . ." လို့ **ဟော်တင်ဆီယို** က ပြောလိုက်တော့ . . . **ပက်ထရူချီယို** က မေးတယ်။

"ကဲ. . . ဘာဖြစ်မလဲ. . . ?"

"ဘယ်. . . လာလိမ့်မလဲ. . . "လို့ သူက ဖြေတယ်၊ ဒါပေမယ့်. . . **ကက်သရင်း** ရဲ့ဖခင်က တအံ့တဩ အော်ပြောလိုက်တဲ့အခါမှာတော့. . . သူ့အနေနဲ့ ဘာစကားမှ ဆက်ပြီး မပြောနိုင်လောက်အောင် ဖြစ်သွားပါတယ်။



'Here comes katharine,' he said, looking at his daughter in astonishment, because Katharine's manner was neither angry nor ill-tempered. She went quietly to her husband and asked him gently: 'What is your will, sir? Did you send for me?'

'Where is your sister, and Hortensio's wife?' asked Petruchio.

'They are sitting talking by the fire,' Katharine answered.

'Go bring them here,' Petruchio told her, and Katharine went at once to call them.

'Here is a wonder!' cried Lucentio.

'And so it is,' Hortensio agreed. 'I wonder what it means?'

သူ့သမီးကို တအံ့တဩကြည့်ရင်း "ဟော. . . လာပါပြီဗျာ. . . **ကက်သရင်း**" လို့ ပြောလိုက်တယ်။ ဘာကြောင့်လဲဆိုတော့ **ကက်သရင်း** ရဲ့ အမူအရာက စိတ်လည်း မဆိုးဘူး၊ စိတ်လည်း မကွက်ဘူး၊ သူ(မ)က သူ(မ)ရဲ့ ယောက်ျားဆီ တည်တည်ငြိမ်ငြိမ် အေးအေးဆေးဆေး သွားပြီး နူးနူးညံ့ညံ့ သိမ်သိမ်မွေ့မွေ့ မေးလိုက်တယ်။

"ဘာများ အလိုရှိလို့ပါလဲရှင်? ကျွန်မကို အခေါ်လွှတ်ပါသလား. . . ရှင်?"

"မင်းညီမနဲ့ **ဟော်တင်ဆီယို** ရဲ့ ဇနီး ဘယ်မှာလဲကွ?" လို့ **ပက်ထရူဆီယို** က မေးလိုက်တယ်။

"သူတို့တွေ မီးဖိုနားမှာ ထိုင်ပြီး စကားပြောနေကြတယ်. . ."လို့ **ကက်သရင်း** က ဖြေတယ်။

"သူတို့ဆီသွားပြီး ဒီ ခေါ်ခဲ့ပါကွာ" လို့ **ပက်ထရူချီယို** က ပြောလိုက်တော့. . . **ကက်သရင်း** က သူတို့ကို ခေါ်ဖို့ဆိုပြီး ချက်ချင်း ထွက်ခွာသွားပါတယ်။

"အံ့ဩကုန်နိုင်ဖွယ် ပါလားဟေ့!" လို့ **လူစင်တီယို** က အော်လိုက်တယ်။

"ဟုတ်ပ့ါဗျာ. . . ဟုတ်ပ" ဆိုပြီး **ဟော်တင်ဆီယို** က သဘောတူတယ်၊ "ကျုပ်တော့ အံ့ဩတယ်ဗျာ. . . ဘာတွေဖြစ်ကုန်ပြီလဲ. . . ဘာသဘောလဲ. . . ဗျာ?"



'It means peace,' said Petruchio, smiling. 'And love, and a quiet life. In sort, it means all that is sweet and happy. And if you will wait a little, I will show you more signs of her obedience.'

Katharine soon returned with the other two wives, and Petruchio said to her: 'Katharine, that cap of yours does not suit you. Take it off and throw it away.'

At once Katharine took off her cap and threw it on the ground.

Bianca and Hortensio's wife looked at her in amazement.

'How silly you are!' they cried. 'We should never obey our husbands in such stupid commands.'

'Katharine,' said Petruchio. 'Tell these foolish women how they should behave towards their husbands.'

“ငြိမ်းချမ်းခြင်း ဆိုတဲ့ သဘောပဲပေါ့” လို့ **ပက်ထရူချီယို** က ပြုံးပြီး ပြောပြတယ်၊ “ပြီးတော့ မေတ္တာတရား. . . ပြီးတော့ ငြိမ်းချမ်းတဲ့ဘဝတစ်ခု. . .။ အတိုချုပ်ပြောရရင်တော့ဗျာ. . . ဒါတွေအားလုံးဟာ ချမ်းမြေ့သာယာမှုပေါ့၊ အဲ. . . ခဏလောက် ထပ်ပြီး စောင့်ကြည့်မယ်ဆိုရင် သူ(မ)ရဲ့ ရိုသေကျိုးနွံမှုတွေ. . . နာခံမှုတွေကို ကျွန်တော်ပြပါမယ်”

မကြာခင်မှာပဲ. . . **ကက်သရင်း** နဲ့ အခြား ဇနီးနှစ်ယောက် ပြန်လာတော့. . . **ပက်ထရူချီယို** က သူ(မ)ကို ပြောလိုက်တယ်။ “**ကက်သရင်း** မင်းရဲ့ ဒီဦးထုပ်က မင်းနဲ့ မတော်တော့ဘူးကွ. . . ချွတ်ပြီး လွှင့်ပစ်လိုက်စမ်းပါကွာ”

**ကက်သရင်း** က ဦးထုပ်ကို ချက်ချင်းချွတ်ပြီး မြေပြင်ပေါ်ကို လွှင့်ပစ်လိုက်တယ်။

**ဘီယင်ကာ** နဲ့ **ဟော်တင်ဆီယို** ရဲ့ ဇနီးတို့က အံ့အားကြီးသင့်ပြီး သူ(မ)ကို ကြည့်လိုက်ကြတယ်။

“ရူးကြောင်ကြောင့်နဲ့ မိုက်မဲလိုက်တာရှင်. . . ဒီလိုယောကျ်ားတွေရဲ့ မိုက်မဲအဓိပ္ပါယ်မဲ့တဲ့. . . အမိန့်သြဇာကို ကျွန်မတို့ ဘယ်တော့မှ နားမထောင်. . . မနာခံသင့်ဘူးရှင့်”လို့ သူတို့က အော်ပြောကြတယ်။

“**ကက်သရင်း** ရေ ဒီ မိုက်မဲတဲ့ မိန်းမတွေကို. . . သူတို့ရဲ့လင်ယောကျ်ားတွေအပေါ် ဘယ်လိုပြုမူဆက်ဆံရမယ်ဆိုတာ ပြောပြလိုက်စမ်းပါကွာ. . . ”လို့ **ပက်ထရူချီယို** က ပြောလိုက်တယ်။

And, to everyone's amazement, Ka-tharine talked wisely and gently to the other wives about the duties of a wife. When she had finished, Petruchio kissed her proudly.

'Why, there's a girl!' he said.

'He has tamed a shrew!' whispered the others.

And Katharine was no longer called the Shrew. She continued to be a loving, kind and dutiful wife, and Petruchio lived proudly and happily with hsi own sweet Kate.



လူတိုင်း အံ့ဩသွားကြရလောက်အောင် . . . **ကက်သရင်း** က ဇနီးတစ်ယောက်ရဲ့ တာဝန်ဝတ္တရားတွေနဲ့ ပတ်သက်ပြီး အခြား ဇနီးတွေကို အမြော်အမြင် ရှိရှိ ညင်ညင်သာသာ ပြောပြတယ်၊ သူ(မ)လည်း စကားပြောလို့ ပြီးသွားရော. . . **ပက်ထရူချီယို** က သူ(မ)ကို ဝင့်ကြွား ဂုဏ်ယူစွာ မွေးကြူလိုက်ပါတယ်။

"ကဲ. . . ဘယ်လိုလဲဗျာ. . .၊ ဟောဒီမှာ မိန်းမပီသတဲ့ မိန်းမကောင်း တစ်ယောက်မဟုတ်ပါလား. . . ခင်ဗျာ" လို့ သူ က ကြွေးကြော်လိုက်တယ်။

"သူ က နှုတ်သီးကောင်း လျှာပါး. . . မကို သွန်သင်ပြီး ပြီပဲ" လို့ အခြားလူတွေက တီးတိုး ပြောလိုက်ကြတယ်။

(အဲဒီအချိန်ကစပြီး) **ကက်သရင်း** ကိုနှုတ်သီးကောင်း လျှာပါး မ (အပြစ်အနာရှာပြီး မြည်တွန်တောက်တီး တတ်တဲ့ မိန်းမ) လို့ မခေါ်ကြတော့ပါဘူး၊ သူ(မ)ကလည်း ချစ်စရာကောင်းတဲ့. . . ကြင်နာတတ်တဲ့. . . တာဝန်ကျေပွန်တဲ့. . . ဇနီး ကောင်းတစ်ယောက်အဖြစ်နဲ့ (ဘဝခရီး ကို) ဆက်ပါတယ်။ **ပက်ထရူချီယို** ကလည်း သူချစ်တဲ့ သူ့ဇနီး **ကေတီ** နဲ့အတူ ဂုဏ်ယူဝင့်ကြွား ဝမ်းမြောက်ပျော်ရွှင်စွာ နေထိုင်သွားပါတော့တယ်။

  



# THE TEMPEST

## PEOPLE IN THE STORY

PROSPERO, the real Duke of Milan.
ANTONIO, his brother, who has made himself the Duke.
MIRANDA, Prospero's daughter.
ALONSO,King of Naples
SEBASTIAN,his brother
FERDINAND, Alonso's son.
GONZALO,an honest old nobleman.
ARIEL, a fairy
CALIBAN, a slave.



# မုန်တိုင်း

**ဇာတ်ကောင်များ (ပုံပြင်တွင် ပါဝင်သူများ)**

| | |
|---|---|
| **ပရော့စ်ပါရို** | – **မီလန်** မြို့စား (အစစ်) |
| **အန်တိုနီယို** | – (၎င်း၏ညီ) မိမိကိုယ်မိမိ မြို့စားအဖြစ် တင်မြှောက်ထားသူ |
| **မီရင်ဒါ** | – ပါရော့စ်ပါရို ၏ သမီး |
| **အလွန်ဆို** | – နေပယ်လ် ပြည့်ရှင်ဘုရင် |
| **စီဘတ်စ်တီယန်** | – ၎င်း၏ညီ |
| **ဖာဒီနန်** | – **အလွန်ဆို** ၏ သား |
| **ဂွန်ဇာလို** | – ရိုးသားဖြောင့်မတ်သော မှူးမတ်အဘိုးအိုတစ်ဦး |
| **အေရီယယ်လ်** | – (ဒဏ္ဍာရီပုံပြင်လာ) နတ်သား၊ |
| **ကာလီဘန်** | – ကျေးကျွန်တစ်ယောက် |



Once, long ago, in the far-away country of Italy, there was a Duke of Milan called Prospero. He was a wise and learned may, more interested in books than in ruling his country. He left the care of political affairs to his brother Anotonio, while he himself studied strange sciences and books of magic.

Antonio, however, was jealous of his brother. He felt that while Prospero remained in Italy he would always be considered the real Duke of Milan; and Antonio wanted that title for himself. And so he and Alonso, the King of Naples, made a wicked plan; they decided to send Prospero far away from his country, so that Antonio could rule Milan in his place.

ဟို. . . ရှေးရှေး. . . ကြာမြင့်လှတဲ့. . .  တစ်ချိန်က ပေါ့. . .။ ဝေးကွာလှတဲ့ **အီတလီ**နိုင်ငံမှာ. . . **ပရော့စ်ပါရို** ဆိုတဲ့ **မီလန်** မြို့စားကြီးတစ်ယောက်ရှိသတဲ့. . .။ သူဟာ ဉာဏ်ပညာ အမြော်အမြင်ရှိပြီး စာပေနှံ့စပ်သူတစ်ယောက် ဖြစ်တယ်။ သူက(သူအပိုင်စားရတဲ့နယ်ပယ်ကို) တိုင်းပြည် အုပ်ချုပ်မင်းလုပ်ဖို့ထက်. . . စာအုပ်စာပေတွေမှာ ပိုပြီး စိတ်ဝင်စားတယ်။ သူကိုယ်တိုင်က ထူးခြားဆန်းကြယ်တဲ့ သိပ္ပံ သိပ္ပပညာအရပ်ရပ်. . . နဲ့ မှော်. . . ပဥ္စလက်စာအုပ်တွေကို လေ့လာနေတဲ့ အခိုက်မှာ နိုင်ငံရေးကိစ္စအရပ်ရပ်ကို. . . ညီတော်မောင် **အန်တိုနီယို** နဲ့ လွှဲအပ်ထားတယ်။

ဒါပေမယ့် **အန်တိုနီယို**က သူ့အစ်ကိုအပေါ်မှာ မနာ လိုဘူး။ သူက (မနာလိုစိတ်နဲ့) တွေးမိတယ်. . .။ **ပရော့စ်ပါရို** **အီတလီ** နိုင်ငံမှာ ရှိနေသမျှကာလပတ်လုံး တကယ့် **မီလန်**မြို့စားအဖြစ်(လူတွေက) သူ့ကို့ပဲ အသိ အမှတ်ပြု(သဘောထားယူဆ) ကြမှာပဲ. . .။ **အန်တိုနီယို** က အဲဒီ (**မီလန်**မြို့စား) ဆိုတဲ့ ဘွဲ့ထူးကို သူကိုယ်တိုင် လိုချင်တယ်။ ဒါကြောင့် သူနဲ့ **နေပယ်**ဘုရင် **အလွန်ဆို** တို့က ကောက်ကျစ်စဉ်းလဲတဲ့ အစီအစဉ်တစ်ခုကို ပြုလုပ် တယ်။ သူတို့က **ပါရော့စ်ပါရို** ကို သူ့တိုင်းပြည်ကနေ အဝေး ကြီးကို ပို့ပစ်ဖို့ ဆုံးဖြတ်ခဲ့ကြတယ်။ ဒါမှ သူ့အစား **အန်တို နီယို** က **မီလန်**ကို (မြို့စားအဖြစ်) အုပ်ချုပ်စိုးစံနိုင်မှာ ဖြစ်တယ်။



One dark, stormy night Prospero was secretly taken prisoner by his enemies and carried down to the sea-shore. His little three-year-old daughter, Miranda, was taken with him, and they were put into an old boat which had nei ther sails nor oars. Antonio had ordered that they were to take nothing with them- not even food; he was certain that the old boat would sink in the stormy seas, and Prospero and Miranda would be drowned. He did not dare to murder them in Milan, knowing how greatly they were loved by all the people.



မှောင်မည်းနေပြီး. . . မုန်တိုင်းထန်တဲ့ တစ်ညမှာ **ပရော့စ်ပါရို** ဟာ အကျဉ်းသားအဖြစ် သူ့ရန်သူတွေရဲ့ တိတ်တဆိတ် ဖမ်းဆီးခြင်းခံခဲ့ရတယ်။ သူ့ကို ဖမ်းပြီး. . . ပင်လယ်ကမ်းခြေကို ခေါ်ဆောင်သွားကြတယ်။ သူ့ရဲ့ သုံးနှစ်အရွယ် သမီးလေး **မီရင်ဒါ** ကိုလည်း သူနဲ့ အတူခေါ်သွားကြတယ်။ အဲဒီနောက် သူတို့နှစ်ယောက်ကို ရွက်မပါ တက်မပါတဲ့ လှေအိုကြီးတစ်ခုထဲထည့်လိုက်ကြတယ်။ သူတို့နဲ့အတူ ဘာကိုမှ ယူဆောင်မသွားစေရဘူး။ အစားအသောက်တောင် ယူဆောင်သွားခွင့်မပြုစေရဘူး. . . လို့ **အန်တိုနီယို** က သူ့လူတွေကို အမိန့်ပေးတယ်။ **ပရော့စ်ပါရို** နဲ့ **မီရင်ဒါ** တို့ဟာ မုန်တိုင်းထန်နေတဲ့ ပင်လယ်ပြင်မှာ လှေအိုလေးမြုပ်ပြီး ရေနစ်သေကြမှာ မုချပဲလို့ သူက ကျိန်းသေတွက်ဆထားတယ်။ သူက သူတို့ကို **မီလန်**မြို့မှာတော့ မသတ်ရဲဘူးလေ. . . ဘာကြောင့်ဆို. . . သူတို့ကို လူတွေ အားလုံးက ဘယ်လောက်ထိချစ်မြတ်နိုးကြောင်း. . . သူ သိနေတာကိုး။



There was, however, one kind old man among Alonso's noblemen, whose name was Gonzalo. He secretly put food and warm clothes and water into the boat; and he added some of Prospero's books, knowing the Duke's love for his library.

The little boat was pushed out to sea, and for many hours it rocked helplessly on the waves. The small Miranda was too young to be afraid, and she slept peacefully in the bottom of the boat.



ဒါပေမယ့်. . . **အလွန်ဆို** ရဲ့ မျိုးမတ်ထဲမှာ ကြင်နာ သနားတတ်တဲ့ မျိုးမတ်အဘိုးအိုတစ်ယောက်ပါတယ်။ သူ့ နာမည်က **ဂွန်ဇာလို** တဲ့. . .။ သူက. . . အစားအသောက် တွေ အခြွေးထည်တွေ. . . ရေတွေ. . . ကို လှေထဲသို့ တိတ်တိတ်လေး ထည့်ပေးလိုက်တယ်။ မြို့စားကြီးရဲ့ စာပေ မြတ်နိုးမှုကို သိထားတဲ့အတွက် **ပရော့စ်ပါရို** ရဲ့ စာအုပ် အချို့ကိုလည်း ထပ်ထည့်ပေးလိုက်သေးတယ်။

လှေကလေးကို ပင်လယ်ပြင်ကို တွန်းထုတ်လိုက်တဲ့ အခါ. . . လှေကလေးဟာ လှိုင်းလုံးကြီးတွေပေါ်မှာ နာရီ ပေါင်းများစွာကြာအောင် ဘောင်ဘင်ခတ်ပြီး ကူရာမဲ့ လှုပ်ရှားမျောပါသွားတယ်။ **မီရင်ဒါ**ကလေးကတော့ ငယ်လွန်း လို့ ကြောက်ရလန့်ရမှန်း မသိဘူး။ သူ(မ)က လှေကလေး ရဲ့ အောက်ခြေဝမ်းဗိုက်ထဲမှာ ငြိမ်းငြိမ်းချမ်းချမ်း အိပ်ပျော် နေတယ်။



But Prospero began to doubt whether they would ever see land again. At last the storm ended and the sea was clam once more. Perhaps Pro-spero's magic had something to do with it, for he was a very clever man, practised in the arts of magic. Perhaps the good fairies were watching over him and his little daughter. Whatever the cause, when morning came Prospero saw an island in the sea ahead of him, and soon he managed to steer the boat to the sandy shore. He landed safely and carried the sleeping Mi- randa to a sheltered cave; then he returned to the boat to fetch their clothes and his precious books. Those books were a great help to him in the years that followed.

ဒါပေမယ့် **ပါရော့စ်ပါရို** ကတော့ . . . သူတို့တွေ. . . ကမ်းခြေကုန်းမြေကို ပြန်ပြီး ရောက်မှ ရောက်ပါတော့မလား. . . လို့ စိတ်ထဲမှာ လေးနေ(တွေးနေ)မိတယ်။ နောက်ဆုံးမှာ မုန်တိုင်းဆဲသွားပြီး ပင်လယ်ပြင်က ငြိမ်သက်အေးချမ်းသွားပြန်ပါတယ်။ ခုလို မုန်တိုင်းရပ်တန့်သွားရတာဟာ ပရော့်စပါရို ရဲ့ မှော်ပညာအစွမ်းကြောင့်လည်း ဖြစ်ကောင်း ဖြစ်နိုင်တယ်။ ဘာကြောင့်လဲဆိုတော့ သူက မှော်အတတ်ပညာကို တတ်မြောက်အောင် လေ့ကျင့်ခဲ့ပြီး (ဒီပညာရပ်မှာ) အလွန်လည်း ကျွမ်းကျင်လိမ္မာသူတစ်ယောက်ဖြစ်တယ်။ (ဒါမှမဟုတ်) နတ်ကောင်းနတ်မြတ်တွေက သူနဲ့သူသမီးလေး (**မီရင်ဒါ**) ကို စောင့်ရှောက်နေတာကြောင့်လည်း ဖြစ်ကောင်းဖြစ်နိုင်တယ်။ ဘာအကြောင်းကြောင့်ပဲဖြစ်ဖြစ် နောက်နေ့မနက် ရောက်လာတဲ့အခါမှာတော့ **ပရော့စ်ပါရို** ဟာ သူ့ရှေ့ပင်လယ်ပြင်ထဲမှာ ကျွန်းလေးတစ်ကျွန်းကို မြင်ရတယ်။ လှေကို အဲဒီကျွန်းလေးရှိတဲ့ဆီပဲ့ကိုင်ပေးပြီး မကြာခင်မှာဘဲ အဲဒီကျွန်းလေးရဲ့ သဲသောင်ကမ်းခြေကို ရောက်ရှိခဲ့တယ်။ သူက ကုန်းပေါ်ကို ဘေးမသီရန်မခဘဲ ဆင်းသက်တယ်။ အိပ်ပျော်နေတဲ့ **မီရင်ဒါ** ကို အမိုးအကာ အကာအကွယ်ရှိတဲ့ ဂူကြီးတစ်ခုဆီသို့ သယ်ဆောင်ချီယူသွားတယ်။ အဲဒီနောက် သူတို့ရဲ့ အဝတ်အစားတွေနဲ့ အလွန်အဖိုး ထိုက်တန်တဲ့ စာအုပ်တွေကို သွားသယ်ဖို့ လှေကလေးဆီသို့ ပြန်လာတယ်။ အဲဒီစာအုပ်တွေဟာ နောက်ပိုင်းတွေ့ကြုံရတဲ့ နှစ်တွေမှာ သူ့ကို အများကြီး အထောက်အကူပေးခဲ့တယ်။



There seemed to be no one living on the island, But it was rich and green, with a plentiful supply of fruit and vegetables, and fresh streams of water. Prospero decided that he and his little daughter would be able to live there in happiness and comfort for as long as was necessary. He soon discovered, too, that there were fairies on the island, and he was glad that he had spend so many years in studying magic. His knowledge gave him power over all these strange creatures, the chief of whom was fairy called Ariel. Prospero found Ariel quite by chance, when he was walking through the woods one day. He heard a voice crying pitifully from inside a tree, and with his magic Prospero was able to split the tree open. To his astonishment a pretty little fairy flew out from the centre of the tree.

ကျွန်းပေါ်မှာ လူသူတစ်ယောက်တလေမှ နေထိုင်ဟန် မတူဘူး။ ဒါပေမယ့် ကျွန်းလေးက မြေဆီမြေသြဇာကောင်းမွန်ပြီး စိမ်းလန်းစိုပြည်တယ်။ သစ်သီးဝလံနဲ့ ဟင်းသီးဟင်းရွက်တွေ ပေါများတယ်။ ကြည်လင်သန့်စင်တဲ့ စမ်းရေလေးတွေလည်းရှိတယ်။ ဒီနေရာမှာ သူနဲ့သူ့သမီးလေး ပျော်ပျော်ရွှင်ရွှင် သက်သောင့်သက်သာနဲ့ နေဖို့လိုအပ်သမျှ ကာလပတ်လုံး နေမယ်လို့ **ပရော့စ်ပါရို** ကဆုံးဖြတ်တယ်။ ဒီကျွန်းပေါ်မှာ နတ်သား၊ နတ်သမီးတွေလည်းရှိတယ်ဆိုတာ. . . မကြာမီ (မှာ) သူ တွေ့ရှိခဲ့တယ်။ မှော်ပညာကို နှစ်ပေါင်းများစွာကြာအောင် အချိန်ယူ လေ့လာလိုက်စားမိခဲ့တာကို ကျေနပ်ဝမ်းသာမိတယ်။ ဒီထူးဆန်းတဲ့ ပုဂ္ဂိုလ်သတ္တဝါတွေအပေါ်မှာ နိုင်နင်းတဲ့ တန်ခိုးသြဇာကို သူတတ်မြောက်ထားတဲ့ အသိပညာ သူ့ကို ပေးအပ်တယ်။ (မှော်ပညာတတ်မြောက်ထားတဲ့အတွက် နတ်သား၊ နတ်သမီးတွေအပေါ် . . . နိုင်တဲ့တန်ခိုးသြဇာရှိတယ်) အဲဒီနတ်သား နတ်သမီးတွေရဲ့ အကြီးအကဲက **အေရီယယ်လ်** လို့ခေါ်တဲ့ နတ်သားတစ်ပါး ဖြစ်တယ်၊ တစ်နေ့. . . တောထဲမှာ **ပရော့စ်ပါရို** လမ်းလျှောက်နေတုန်း **အေရီယယ်လ်** ကို မမျှော်လင့်ဘဲ(ကံအားလျော်စွာ) ကြုံကြိုက် တွေ့ရှိခဲ့တယ်။ သစ်ပင်ရဲ့ အတွင်းဘက်ကနေ သနားစဖွယ် ငိုကြွေးနေတဲ့ အသံလေးတစ်ခုကို သူကြားတယ်။ သစ်ပင်ကို **ပရော့စ်ပါရို** က သူ့ရဲ့ မှော်ပညာစွမ်းနဲ့ (နှစ်ခြမ်း)ကွဲအောင် ခွဲပစ်လိုက်တယ်။ သစ်ပင်ရဲ့ အလယ်ဗဟိုကနေ အပြင်ဘက်ကို လှပတဲ့ နတ်သားလေးတစ်ပါး ပျံသန်းထွက်လာတာကို သူ တအံ့တသြ တွေ့ရတယ်။



The fairy, who said his name was Ariel, had a sad story to tell. He had been imprisoned in the tree for twelve years, through the magic of a wicked old woman called Sycorax. When sycorax first came to the island, Ariel and many other fairies had refused to obey her, and to punish them she had imprisoned them all inside these trees. Now she was dead, and no one lived on the island except her ugly, half-mad son, Caliban.



နတ်သားလေးက သူ့နာမည်ကို **အေရီယယ်လ်** လို့ ခေါ်ကြောင်း ပြောပြတယ်။ သူ့မှာ ကြေကွဲစရာကောင်းတဲ့ ဇာတ်လမ်းလေးတစ်ပုဒ် ပြောပြစရာရှိပါတယ်။ သူဟာ ဒီသစ်ပင်ထဲမှာ အကျဉ်းချ ခံထားရတာ အနှစ်နှစ်ဆယ်ရှိပြီ။ ကောက်ကျစ်စဉ်းလဲတဲ့ အဘွားအို **ဆိုင်ကိုရက်** ရဲ့ မှော်ပညာစွမ်းကြောင့် အချုပ်အနှောင်ခံခဲ့ရတာ ဖြစ်တယ်။ **ဆိုင်ကိုရက်** ဒီကျွန်းကို ပထမဦးဆုံးရောက်လာတော့. . . **အေရီယယ်လ်** နဲ့ အခြားနတ်သား၊ နတ်သမီးတွေက သူ(မ)ရဲ့ စကားကို နားထောင်ဖို့ ငြင်းဆန်တယ်။ ဒါကြောင့် သူတို့ကို အပြစ်ပေးဖို့ ဒီသစ်ပင်တွေထဲမှာ သူတို့ကို အကျဉ်းချထားခဲ့တာ ဖြစ်တယ်။ အခုတော့ သူ(မ)သေသွားခဲ့ပြီ။ သူ(မ)ရဲ့ အရုပ်ဆိုးအကျည်းတန်ပြီး စိတ်မနှံ့တဲ့ သား **ကာလီဘန်** ကလွဲရင် ကျွန်းပေါ်မှာ ဘယ်သူမှ မနေဘူး (ဆိုတာကို **အေရီယယ်လ်** ကပြောပြတယ်)



Prospero freed all the fairies from their woody prisons, and they gratefully promised to help him faithfully in anything he ordered them to do. Prospero then went in search of the ugly Caligan. He found him hiding fearfully in a cave. and at first he tried to teach this miserable crea ture some of his own knowledge. He taught him the names of the sun and the moon, and fed him on berries and water and was gentle and kind to him. But Caliban was wicked, stupid and ungrateful, and finally Prospero made him his slave; he had to carry water and cut firewood, and lived in a little cave by himself.



**ပရော့စ်ပါရို** က နတ်သား၊ နတ်သမီးအားလုံးကို သူတို့ရဲ့ သစ်လုံးအကျဉ်းထောင်တွေထဲကနေ လွှတ်ပေးလိုက်တယ်။ ဘယ်အရာမျိုးမဆို သူတို့ကို လုပ်ကိုင်စေဖို့ (**ပရော့စ်ပါရို**က) အမိန့်ပေးစေခိုင်းရင် သူတို့က သစ္စာရှိရှိ ကူညီဆောင်ရွက်ပါမယ်လို့ . . ကျေးဇူးတင်စွာ ကတိပြုပြောဆိုကြသည်။ အဲဒီနောက် **ပရော့စ်ပါရို** က အကျည်းတန် **ကာလီဘန်** ကို သွားရှာတယ်။ ဂူတစ်ခုထဲမှာ ကြောက်ကြောက်ရွံ့ရွံ့နဲ့ ပုန်းနေတဲ့ **ကာလီဘန်** ကိုတွေ့တယ်။ အစပထမတော့ ဒီမနှစ်မြို့ဖွယ်ကောင်းတဲ့ သတ္တဝါကို သူပိုင်ဆိုင်ထားတဲ့ အသိပညာအချို့ သင်ပေးဖို့ ကြိုးစားတယ်။ 'နေ' နဲ့ 'လ' ဆိုတဲ့ အခေါ်အဝေါ် တွေကို သင်ပေးတယ်။ အသီးအနှံတွေ ကျွေး. . . ရေကောင်းရေသန့်တွေ တိုက်. . . နဲ့. . . သူ့အပေါ် နူးနူးညံ့ညံ့ ကြင်ကြင်နာနာ ဆက်ဆံတယ်။ ဒါပေမယ့် **ကာလီဘန်** က ကောက်ကျစ်စဉ်းလဲတယ်။ မိုက်မဲပြီး ကျေးဇူးကန်းတယ်။ ဒါကြောင့် နောက်ဆုံးမှာ **ပရော့စ်ပါရို** က သူ့ကို ကျွန်အဖြစ်ခိုင်းစေတယ်။ သူက ရေသယ် ရတယ်။ ထင်းခွဲရတယ်။ ဂူသေးသေးလေးတစ်လုံးမှာ သူ့ဘာသာ တစ်ယောက်တည်းနေစေတယ်။



And so Prospero and Miranda lived on this magic island, helped by the fairies and served by the ugly Caliban, who was more like a wild beast than a man.

Twelve years passed, and Miranda grew to be a beautiful girl. In all those twelve years she had never seen a human being except her father. She remembered nothing of their life in Milan, because she had been so young when they left Italy. Nor did she know that her father had once been the Duke of Milan. She was perfectly content to live on the island and asked for nothing different.



အဲဒီလိုနဲ့ပဲ **ပရော့စ်ပါရို** နဲ့ **မီရင်ဒါ** တို့ဟာ ဒီထူးခြား ဆန်းကြယ်တဲ့ ကျွန်းကလေးပေါ်မှာ နတ်သား၊ နတ်သမီး တို့ရဲ့ အကူအညီ. . .၊ အကျည်းတန် **ကာလီဘန်** ရဲ့ အလုပ်အကျွေးပြုမှု. . . တွေနဲ့အတူ နေထိုင်ပါတယ်။ **ကာလီဘန်** ကတော့ လူတစ်ယောက်ဆိုတာထက်. . . သားရဲ တိရစ္ဆာန်တစ်ကောင်နဲ့ ပိုပြီး တူပါတယ်။

ကျွန်းပေါ်မှာ တစ်ဆယ့်နှစ်နှစ်တာကာလ ကုန်လွန်ခဲ့ ပါပြီ။ **မီရင်ဒါ** ဟာ လှပတဲ့ မိန်းမပျိုလေးတစ်ယောက်အဖြစ် ဖွံ့ဖြိုးကြီးထွားခဲ့ပါပြီ။ အဲဒီ တစ်ဆယ့်နှစ်နှစ်တာကာလ အတွင်းမှာ သူ(မ)ရဲ့ ဖခင်ကလွဲရင် အခြားလူသားဆိုလို့ တစ်ဦးတစ်ယောက်ကိုမှ မမြင်ဖူးခဲ့ပါဘူး။ **မီလန်** မှာ နေခဲ့ ရတဲ့ သူ(မ)တို့ရဲ့ ဘဝနဲ့ ပတ်သက်ပြီးတော့လည်း ဘာကိုမှ သတိမရပါဘူး။ ဘာကြောင့်ဆို သူတို့ အီတလီကနေ ထွက်ခွာလာတဲ့ အချိန်တုန်းက သူ(မ)က သိပ်ကို ငယ်လွန်း တယ်လေ။ သူ(မ)ရဲ့ ဖခင်ဟာ တစ်ချိန်တုန်းက **မီလန်**မြို့စား ကြီး ဖြစ်ခဲ့တယ်ဆိုတာကိုလည်း သူ(မ) မသိရှိပါဘူး။ ကျွန်းလေးပေါ်မှာ နေထိုင်ရတာကို သူ(မ) အနေနဲ့ လုံးဝ ရောင့်ရဲ ကျေနပ်ပျော်ရွှင်နေပါတယ်။ အခြားဘာကိုမှ လိုချင်တပ်မက် တောင့်တမှု မရှိပါဘူး။



And then, one day, there was a terrible storm. Miranda stood on the shore, watching the wild waves and the heavy rain sweeping across the sea, and suddenly she saw a ship being carried by the strong tide towards the rocks. In those days there were no steam ships, and the sails of the ship were torn by the wind and great waves washed over the decks. Even above the noise of the storm Miranda could hear the sailors crying for help.

အဲဒီနောက်. . . တစ်နေ့မှာ ပြင်းထန်ပြီး ကြောက်စရာကောင်းတဲ့ မုန်တိုင်းကြီးတစ်ခု ပေါ်ပေါက်ခဲ့ပါတယ်။ **မီရင်ဒါ** က ကမ်းခြေမှ ရပ်ပြီး မုန်တိုင်းထန် ကြမ်းတမ်းတဲ့လှိုင်းလုံးကြီးတွေ. . . သည်းထန်လှတဲ့ မိုးရေမိုးပေါက်တွေ. . . ပင်လယ်ပြင်မှာ ဖြတ်သန်းရွေ့လျား လွှမ်းမိုးနေတာကို စောင့်ကြည့်နေတယ်။ အဲဒီနောက် ကမ်းခြေကျောက်ဆောင်တေ ရှိတဲ့ဘက်ကို အားကောင်းတဲ့ ဒီရေလှိုင်းတွေကြောင့် သင်္ဘောကြီးတစ်စီး မျောပါလာနေတာကို ရုတ်တရက် တွေ့ရတယ်။ အဲဒီခေတ် အဲဒီအခါက ရေနွေးငွေ့နဲ့ မောင်းနှင်တဲ့ သင်္ဘောတွေ မပေါ်သေးဘူး။(ရွက်သင်္ဘောတွေပဲ ရှိသေးတယ်)။ သင်္ဘောရဲ့ ရွက်တွေက လေပြင်းတိုက်တဲ့ဒဏ်ကြောင့် စုတ်ပြဲကုန်တယ်။ ကြီးမားတဲ့ လှိုင်းလုံးကြီးတွေက သင်္ဘောကုန်းပတ်ပေါ်ကနေ ရိုက်ခတ်ကျော်ဖြတ်ပြီး စီးဆင်းသွားကြတယ်။ မုန်တိုင်းကြောင့် ဆူညံနေတဲ့ အသံတွေကို လွှမ်းပြီး. . . သင်္ဘောသားတွေရဲ့ အကူအညီတောင်းနေသံတွေကို **မီရင်ဒါ** ကြားရတယ်။



'All lost! To prayers, to prayers! mercy on us!' she heard them cry, and she ran to tell her father. Surely he, with the fairies to help him, and with his great knowledge of magic, could do something to save the ship?

But Prospero did not seem greatly anxious about the fate of the sailor. He told Mirnada that all would be well and that no harm would come to the ship. He himself had caused the storm: he intended to frighten the people on board, but they would none of them be drowned, and the ship, too, would be saved.

'But why are you doing this?' Miranda asked. 'These men have done you no harm.'

Prospero smiled at her sadly.

"အားလုံး ပျက်စီးကုန်ပါပြီဗျာ. . . ဘုရား. . . ဘုရား. . . ! ဘုရား ကယ်တော်မူပါ. . . သနားတော်မူပါ. . . !" လို့ ကယ်ပါ ယူပါ တစာစာနဲ့ အကူအညီတောင်းနေသံတွေကို **မီရင်ဒါ** ကြားရတယ်။ ဒီတော့ သူ(မ)ရဲ့ အဖေကို ပြောပြဖို့ အပြေးလေး ထွက်သွားတယ်။ သူ့ကို ကူညီမယ့် နတ်သား၊ နတ်သမီးတွေရယ်. . . သူမှာ ရှိတဲ့ ကြီးမားတဲ့ မှော်အတတ်ပညာတွေရယ်. . . က မုန်တိုင်းမိနေတဲ့ သင်္ဘောကို သူ. . . ကျိန်းသေကယ်တင်နိုင်မလား. . . ? ဆိုပြီးတော့ပေါ့လေ။

ဒါပေမယ့် **ပရော့စ်ပါရို** ကတော့ သင်္ဘောသားတွေရဲ့ ကံကြမ္မာကို သိပ်ပြီးစိုးရိမ်ပုံ မရဘူး။ အားလုံးအဆင်ပြေကောင်းမွန်သွားမှာပါ။ သင်္ဘောကိုလည်း ဘာဘေးဒုက္ခ အန္တရာယ်မှ ကျရောက်မှာ မဟုတ်ပါဘူး. . . လို့ သူက **မီရင်ဒါ** ကို ပြောပြတယ်။ ဒီမုန်တိုင်းကို သူကိုယ်တိုင် ဖန်တီးထားတာဖြစ်တယ်။ သင်္ဘောပေါ်မှာပါတဲ့ လူတွေကို ခြောက်လှန့်ဖို့သာ ရည်ရွယ်တယ်။ သူတို့အထဲက တစ်ယောက်မှ ရေနစ်သေမှာ မဟုတ်သလို. . . သင်္ဘောလည်း ဘေးကင်းရန်ကွာ ရှိပါလိမ့်မယ်. . . လို့ သူက ပြောပြတယ်။

"ဒါပေမယ့်. . . အဲဒီဟာကို ဘာဖြစ်လို့(အဖေ) လုပ်နေတာလဲ. . . ? အဲဒီလူတွေက အဖေ့ကို ဘာဒုက္ခမှ ပေးခဲ့တာမဟုတ်တာ. . . " လို့ **မီရင်ဒါ** ကမေးတော့. . . ။

**ပရော့စ်ပါရို** က သူ(မ)ကို ကြေကွဲစွာနဲ့. . . ပြုံးပြလိုက်ပြီး. . .



'Many years ago they did me great harm, my child,' he said gently. 'The time has come for me to tell you all bout it. Let us sit donw on this rock while you listen to my story.'

So Miranda sat at her father's feet and he told her bout their life in Milan, and the reason why they were now living on this lonely island.

"ဟို. . . လွန်ခဲ့တဲ့ နှစ်ပေါင်းများစွာတုန်းက သူတို့တွေ. . . ငါ့ကို အကြီးအကျယ် ဒုက္ခပေးခဲ့ကြတာပေါ့. . . ကလေးရယ်. . ."လို့ နူးညံ့သိမ်မွေ့စွာနဲ့ ပြန်ဖြေတယ်။ "အခု. . . ဒီကိစ္စတွေအားလုံး မင်းကို ပြောပြဖို့ အချိန်ရောက်ပြီပေါ့. . .။ အဖေပြောပြမယ် ဇာတ်လမ်းလေးကို သမီးနားထောင်နေတုန်း. . . ဟောဒီ ကျောက်ဆောင်လေးပေါ်မှာ ထိုင်ကြရအောင်နော်. . ."လို့ သူက ပြောလိုက်တယ်။

ဒါကြောင့် **မီရင်ဒါ** က သူ(မ)ရဲ့. . . ဖခင်ခြေရင်းမှာထိုင်လိုက်တယ်။ အဲဒီနောက် သူက **မီလန်** မှာ နေခဲ့တဲ့ သူတို့ ဘဝအခြေအနေရယ်. . . ခုအခါမှာ လူသူကင်းမဲ့တဲ့ အထီးကျန် ဒီကျွန်းပေါ်မှာ ဘာကြောင့် သူတို့ နေနေရတယ်ဆိုတဲ့ အကြောင်းတွေကို **မီရင်ဒါ** သို့ ပြောပြတယ်။

'I am still the rightful Duke of Milan; he finished, 'and now my opportunity has come to revenge myself on my enemies. They are all on board that ship rolling in the waves. Alonso, the King of Napels, arranged for his daughter to marry a foreign king and he hired this ship to carry them across the sea of Africa. The we-ding is over, and they are now returning to Na-ples. The King's son, Ferdinand, is with his fa-ther on board; and my brother Antonio and the King's brother, Sebastian, are also with them.'

Prospero had learned all this through his strange magic powers, and he had planned the storm. With Ariel's help he arranged that the ship should be driven towards the island by the winds, and that it should seem to be wrecked on the rocky shore.

“ခုအထိ ငါဟာ တရားဝင် **မီလန်** မြို့စားပါပဲ”လို့ သူက နိဂုံးချုပ် ပြောဆိုလိုက်တယ်။ “အခုတော့. . . ငါကိုယ်တိုင် ငါ့ရန်သူတွေကို ကလဲ့စားချေဖို့ ငါ့ရဲ့ အခွင့်အရေးတွေ ရောက်လာပြီလေ. . .။ လှိုင်းလုံးကြီးတွေကြားက. . . လူးလိမ့်နေတဲ့ သင်္ဘောပေါ်မှာ. . . သူတို့အားလုံးပါတယ်။ **နေပယ်လ်** ဘုရင် **အလွန်ဆို** က သူ့သမီးကို နိုင်ငံရပ်ခြား တိုင်းတစ်ပါးက ဘုရင်နဲ့ လက်ထပ်ပေးဖို့ စီစဉ်ခဲ့တယ်။ ပင်လယ်ပြင်ကို ဖြတ်သန်းပြီး အာဖရိကတိုက်ကို သွားဖို့ ဒီသင်္ဘောကို ငှားလာတာဖြစ်တယ်။ မင်္ဂလာအခမ်းအနားက ပြီးဆုံးပြီ။ ဒါကြောင့် သူတို့ **နေပယ်လ်**ကို ပြန်လာနေကြတာ ဖြစ်ပါတယ်။ ဘုရင့်သားတော် **ဖာဒီနန်** ကလည်း သူ့ဖခင်နဲ့ အတူ သင်္ဘောပေါ်မှာ ရှိနေတယ်။ ပြီးတော့ ငါ့ညီ **အန်တိုနီယို** နဲ့ ဘုရင့်ရဲ့ ညီတော် **စီဘတ်စ်တီယန်** တို့လည်း သူတို့နဲ့အတူ ရှိနေတယ်။”

**ပရော့စ်ပါရို** ကဒါတွေအားလုံးကို သူရဲ့ ထူးဆန်းတဲ့ မှော်ပညာစွမ်းနဲ့ သိလို့. . . သူက မုန်တိုင်းကို စီစဉ်ခဲ့တာ ဖြစ်တယ်။ သူက နတ်သားလေး **အေရီယယ်လ်** ရဲ့ အကူအညီနဲ့ လေပြင်းတိုက်ခတ်စေပြီး သင်္ဘောကို ကျွန်းဆီ ရောက်အောင် စီစဉ်ခဲ့တယ်။ ဒါမှ ကျောက်ဆောင်ထူထပ်တဲ့ ကမ်းခြေမှာ သင်္ဘောပျက်တော့မယ်လို့ ထင်ရအောင်လေ။



'Nobody will be hurt,' he promised his daughter, 'But they must be punished and made to regret their unkindness to us both:

Miranda trusted her father and knew that he would not break his promise to her, so tired with all the excitement of the storm, she lay down and went to sleep. Then Prospero called Ariel to him, for he had more work for him to do.

Ariel had had a very busy morning and he felt tired and cross. He began to complain to his master.

'What? Is there more work?' he said. 'Don't you remember that you promised me my liberty if I served you faithfully in this matter? I have brought the ship to the island and now I want to be free.'

"ဘယ်သူမှ ထိခိုက်အနာတရ(မဖြစ်စေရပါဘူး) ဖြစ်မယ် မဟုတ်ပါဘူး" လို့ သူက သူ့သမီးကို ကတိပေးတယ်။ "ဒါပေမယ့်. . . သူတို့ကို အပြစ် (တော့) ပေးရမယ်။ ဒို့ နှစ်ယောက်လုံးအပေါ်မှာ ပြုမူခဲ့တဲ့ သူတို့ရဲ့ မကြင်နာမှု. . . ရက်စက်မှုအတွက်. . . နောက်တ ရရှိစေရမယ်. . . "

**မီရင်ဒါ** က သူ(မ)ရဲ့ ဖခင်ကို ယုံကြည်တယ်။ သူ(မ) အပေါ် ပေးတဲ့ကတိကို ဖျက်မှာ မဟုတ်ဘူးဆိုတာလည်း သူ(မ)က သိထားတယ်။ ဒီတော့ မုန်တိုင်းအတွက် စိတ်လှုပ်ရှားမှုအားလုံးကြောင့် ပင်ပန်းနွမ်းလျနေတဲ့ သူ(မ)ဟာ လဲလျောင်း အိပ်ပျော်သွားပါတယ်။ အဲဒီနောက် **ပရော့စ်ပါရို** က **အေရီယယ်လ်** ကို သူ့ဆီခေါ်လိုက်တယ်။ ဘာကြောင့်ဆိုတော့ သူ့အတွက် ထပ်ပြီး လုပ်ပေးစရာ အလုပ်တွေ ရှိနေလို့ ဖြစ်တယ်။

**အေရီယယ်လ်** အနေနဲ့ တစ်မနက်လုံး . . . အရမ်းအရမ်းကို အလုပ်တွေ ရှုပ်ခဲ့ရတယ်။ သူက မောပန်းပြီး စိတ်တိုနေတယ်။ ဒါကြောင့် သူက သူ့သခင်ကို ညည်းညည်းညူညူနဲ့ မကျေမနပ် ပြောလိုက်တယ်။

"ဘာ. . . ခင်ဗျ? ထပ်လုပ်ရမယ့် အလုပ်တွေရှိသေးတယ်. . . ? လို့ သူက မေးလိုက်တယ်။ "ဒီကိစ္စမှာ ကျွန်တော်က သခင့်ကို သစ္စာရှိရှိ အမှုထမ်းရင် ကျွန်တော့်ရဲ့ လွတ်လပ်ခွင့်ကို ပေးမယ်လို့. . . သခင်. . . ကတိပေးထားတာကို သတိမရတော့ဘူးလား? သင်္ဘောကို ကျွန်းဆီရောက်အောင် ကျွန်တော် ယူဆောင်ပေးပြီးပြီလေ. . .။ ဒါကြောင့် အခု. . . ကျွန်တော် လွတ်လပ်ချင်ပါပြီ ခင်ဗျာ. . . "



'The time has not yet come,' Prospero answered. 'Have you forgotten how I saved you from a terrible imprisonment? Do you want to be locked in that tree again? If you will serve me for two more days, you shall be free to go where you will.'

'That's my noble master!' said Ariel gratefully. 'What shall I do? Say What? What shall I do?'

Prospero told him to take the shape of a sea fairy. Only Prospero must be able to see him, but others could hear his voice.

'Bring Ferdinand here,' Prospero told him, and Ariel went in search of the King's son.

"အချိန်မတန်သေးဘူးလေ. . ." လို့ **ပရော့စ်ပါရို** က ပြန်ဖြေတယ်။ "ကြောက်စရာကောင်းလှတဲ့ အကျဉ်းစခန်း. . (ကျဉ်းချထားတဲ့နေရာ)ကနေ မင်းကို ငါကယ်ခဲ့တာကို. . မင်းမေ့သွားပြီလား. . ? အဲဒီ သစ်ပင်ထဲမှာ တစ်ခါထပ်ပြီး ပိတ်လှောင်ထားတာကို မင်းခံချင်လို့လား. . ? ငါ့အတွက် နှစ်ရက်လောက်ပိုပြီး အမှုတော်ထမ်းရွက်ပေးမယ်ဆိုရင်. . . မင်းစိတ်ကြိုက် သွားလိုရာသွားနိုင်ပြီး လွတ်လပ်ခွင့်ရမယ်. . ."လို့ ပြောလိုက်တယ်။

"မြင့်မြတ်တဲ့ ကျွန်တော့်သခင် ဖြစ်ပါပေတယ်"လို့ **အေရီယယ်လ်** က ကျေးဇူးတင်စွာနဲ့ ပြန်ပြောတယ်။ "ကျွန်တော် ဘာလုပ်ပေးရမလဲ ခင်ဗျာ. . . ဘာအလိုရှိပါသလဲ ခင်ဗျား. . . ကျွန်တော် ဘာကို ဆောင်ရွက်ပေးရမှာပါလဲ ခင်ဗျာ. . . ?"

**ပရော့စ်ပါရို** က သူ့ကို ပင်လယ်နတ်သားကြီးတစ်ပါးရဲ့ အသွင်သဏ္ဍာန်ကို ယူခိုင်းတယ် (ဖန်ဆင်းခိုင်းတယ်) **ပရော့စ်ပါရို** တစ်ယောက်တည်းကသာ သူ့ကို မြင်နိုင်တယ်။ ဒါပေမယ့် ကျန်တဲ့လူတွေကတော့ သူ့အသံကိုပဲ ကြားနိုင်တယ်။

"**ဖာဒီနန်** ကို ဒီ (နေရာသို့) ခေါ်ခဲ့. . ." လို့ **ပရော့စ်ပါရို** က ပြောလိုက်တော့ **အေရီယယ်လ်** က ဘုရင့်သားတော်လေးကို ရှာဖို့ ထွက်သွားတယ်။



Ferdinand had been washed ashore alone, on one side of the island, and he was filled with sorrow and despair because he thought that his father and all the others on the ship must have been drowned. Suddenly he heard a mysterious voice singing to him, and the words made him more miserable still, for the voice was telling him that his father was drowned, lying at the bottom of the sea. (This was Ariel's idea of a joke, and rather unkind!) Poor Ferdinand walked in the direction of the voice, and it led him on an on through the woods. What was this strange music? Surely this must be a magic island!

'Where can this music be?' Ferdinand wondered. 'Is it in the air or the earth?'

**ဖာဒီနန်** က ကျွန်းရဲ့ တစ်ဖက်မှာ တစ်ယောက်တည်း (ရေလှိုင်းကြားမှာ မျှောပါရင်း) သွားတင်နေတယ်။ သူက စိတ်ပျက်အားငယ်ပြီး သိပ်ကို ဝမ်းနည်းကြေကွဲ နေမိတယ်။ ဘာကြောင့်လဲဆိုတော့. . . သူ့အဖေနဲ့တကွ သင်္ဘောပေါ်က ကျန်တဲ့လူအားလုံး ရေနစ်သေဆုံးကုန်ကြပြီလို့ သူက ထင်မိတာကိုး။ (အဲဒီအချိန်မှာ) သူ့ဆီကို လာနေတဲ့ ဆန်းဆန်းကြယ်ကြယ် သီချင်းသံလေးကို ရုတ်တရက်ကြားရတယ်။ သီချင်းစာသားထဲမှာ ပါတာတွေက သူ့ကို ပိုပြီးတော့တောင် စိတ်မချမ်းမသာ ဖြစ်စေပါသေးတယ်။ သူ့အဖေဟာ ရေနစ်သေပြီး ပင်လယ်အောက်ခြေမှာ လဲလျောင်းနေရှာပြီ. . . လို့ အဲဒီအသံက ဆိုတယ်။ (ဒါက **အေရီယယ်လ်** ရဲ့ ပြက်လုံး စတာနောက်တာ။ တော်တော်လေးတော့ အကြင်နာမဲ့တယ်. . . လို့ ဆိုရမယ်ပေါ့!)။ သနားစရာကောင်းတဲ့ **ဖာဒီနန်** ဟာ သီချင်းသံကြားတဲ့ လမ်းကြောင်းအတိုင်း လမ်းလျှောက်ပြီး လိုက်လာခဲ့တယ်။ သီချင်းသံလေးကလည်း တောအုပ်ကလေးတွေကို ဖြတ်ပြီး. . . ရှေ့သို့ ဆက်. . . ဆက်. . . (ဦးဆောင်)ခေါ်ယူလာခဲ့တယ်။ ဒီ. . . ထူးဆန်းတဲ့ ဂီတသံလေးဟာ ဘာပါလိမ့်? ဒီကျွန်းဟာ အံ့သြဖွယ်ကောင်းတဲ့ မှော်ကျွန်းလေးတစ်ခုဖြစ်ရမယ်. . . !

"ဒီ ဂီတသံလေးဟာ ဘယ်ကလာတာ ဖြစ်နိုင်သလဲ. . . ? လေထဲက လာတာလား. . . ? ဒါမှမဟုတ် မြေပြင်ပေါ်က လာတာလား. . . ?" လို့ **ဖာဒီနန်** က စဉ်းစားတွေးတော သိချင်နေမိတယ်။



Miranda saw Ferdinand walking towards them, and she was astonished. She had never seen such a beautiful person and she felt sure he must be a fairy.

'No, he isn't fairy,' Prospero told her. 'He eats and sleeps, just as we do. He was on the ship, and now he is looking for his father and his friends.'

Ferdinand looked up and saw Miran-da, and he was certain, too, that she was no human being.

'This must be the fairy who was singing so sweetly,' he thought, and he asked her if this was so.

'No, I am human, just as you are,' Miranda answered, and Ferdinand was greatly astonished to hear her speak the same language as he did. Her gentleness and beauty made him lover her at once, and she, on her side, loved him too.

**မီရင်ဒါ** က **ဖာဒီနန်**. . . သူတို့ဆီ လမ်းလျှောက်လာနေတာကို မြင်တော့ သူ(မ) အံ့အားသင့်သွားတယ်။ သူ(မ) အနေနဲ့ ဒီလောက် လှပချစ်စရာကောင်းတဲ့ လူကို (တစ်သက်မှာ) တစ်ခါမှ မမြင်ဖူးခဲ့ဘူး။ သူဟာ နတ်သားတစ်ပါး ဖြစ်ရမယ်. . . လို့ ထင်မိတယ်။

"မဟုတ်ဘူး. . . သမီး။ သူဟာ နတ်သားတစ်ပါး မဟုတ်ဘူး. . ." လို့ **ပရော့စ်ပါရို** က သူ(မ) ကို ပြောပြတယ်။ "သူက ဒို့လိုပဲ စားတယ်. . . အိပ်တယ်။ သူက သင်္ဘောပေါ်မှာ ပါလာတဲ့လူပေါ့။ အခု သူက သူ့ဖခင်နဲ့ သူ့မိတ်ဆွေတွေကို လိုက်ရှာနေတာ။"

**ဖာဒီနန်** က မော့ကြည့်လိုက်တော့. . . **မီရင်ဒါ** ကို တွေ့သွားတယ်။ သူက ကျိန်းသေတွက်ဆလိုက်တယ်။ သူ(မ) ဟာ လူသားဟုတ်မှာ မဟုတ်ဘူး. . . ပေါ့။

"ဒါဟာ သာသာယာယာနဲ့ တေးဆိုနေတဲ့ နတ်သမီး လေး ဖြစ်ရမယ်. . ." လို့ သူက ထင်မိတယ်။ သူထင်တာ ဟုတ်မဟုတ်ကိုလည်း သူက မေးလိုက်တယ်။

"မဟုတ်ပါဘူးရှင်. . . ကျွန်မဟာ ရှင့်လိုပဲ လူသား တစ်ယောက်ပါ" လို့ **မီရင်ဒါ** က ပြန်ဖြေတယ်။ သူ(မ)က သူပြောတဲ့ ဘာသာစကားအတိုင်း ထပ်တူပြောဆိုတာကို ကြားရလို့ ဖာဒီနန် အနေနဲ့ သိပ်ကို အံ့အားသင့်ရပါတယ်။ သူ(မ)ရဲ့ နူးညံ့သိမ်မွေ့မှုနဲ့ သူ(မ)ရဲ့ ရုပ်ရည်အလှက သူ့ကို ဖမ်းစားခဲ့တယ်။ သူ(မ)ကို မြင်လျှင်မြင်ချင်း ချစ်(မြတ်နိုး)မိတယ်။ သူ(မ)ရဲ့ ဘက်ကလည်း သူ့ကို မြင်မြင်ချင်း ချစ်(ကြင်နာပိုမိ)တယ်။



This was just what Prospero had hoped for-that Ferdinand and Miranda should love each other and wish to marry.

'Delicate Ariel! I'll see you free for this,' Prospero promised, delighted. But first he wished to test Ferdinand, to make sure he was really sincere in his love for Miranda. So he spoke angrily to the young man, pretending to think Ferdinand was an enemy. He accused him of being a rival; of wanting to take Prospero's island and rule over it himself. Ferdinand denied it, and Miranda begged her father not to speak so roughly to the poor young man; but prospero took no notice of her.

ဒါက **ပရော့စ်ပါရို** (ဖြစ်စေချင်လို့) မျှော်လင့်ထားတဲ့ အချက်ပဲလေ။ (သူ့အနေနဲ့) **ဖာဒီနန်** နဲ့ **မီရင်ဒါ** တစ်ယောက်နဲ့ တစ်ယောက် မေတ္တာသက်ဝင် ချစ်ခင်ပြီး အကြင်လင်မယားအဖြစ် ပေါင်းသင်းလက်ဆက်စေချင်တယ်။

"လုပ်ငန်းမှာ တိကျ ကောင်းမွန်တဲ့ **အေရီယယ်လ်**. . . ဒီလိုအမှုတော်ထမ်း. . . ဆောင်ရွက်ပေးတဲ့ အတွက်. . . မင်းကို ငါ လွတ်လပ်ခွင့် ပေးပါတော့မယ်. . ." လို့ **ပရောဲ့စ်ပါရို** က ဝမ်းမြောက်ဝမ်းသာ ကတိပြုတယ်။ ဒါပေမယ့် ပထမဦးဆုံးအနနဲ့ သူက **ဖာဒီနန်** ကို စမ်းသပ်ချင်သေးတယ်။ **မီရင်ဒါ** အပေါ်ထားတဲ့ **ဖာဒီနန်** ရဲ့ မေတ္တာတရားဟာ တကယ့်စစ်မှန်မှုရှိရဲ့လား ဆိုတာ သေချာအောင် စမ်းသပ်ချင်တာ။ ဒါကြောင့် **ဖာဒီနန်** ကို ရန်သူတစ်ယောက်လို သူက ထင်မြင်နေတဲ့ဟန်ဆောင်ပြီး. . .၊ ဒီလူငယ်လေးကို ဒေါသတကြီး ပြောဆိုဆက်ဆံတယ်။ **ပရောဲ့စ်ပါရို** က သူ့ကို အန်တုဖက်ပြိုင်တဲ့ ပြိုင်ဖက်တစ်ယောက်ဖြစ်တယ်လို့ စွပ်စွဲတယ်။ **ပရောဲ့စ်ပါရို** ရဲ့ ကျွန်းကို ရယူပြီး သူကိုယ်တိုင် စိုးမိုးအုပ်ချုပ်ချင်နေသူဖြစ်ကြောင်း (စွပ်စွဲ) ပြောဆိုတယ်။

**ဖာဒီနန်** က မဟုတ်ရပါဘူး ဆိုပြီး ငြင်းဆိုတယ်။ **မီရင်ဒါ** ကလည်း သနားစရာကောင်းတဲ့ လူငယ်လေးကို ကြမ်းကြမ်းတမ်းတမ်း မပြောဆိုဖို့. . . သူ(မ)ရဲ့ ဖခင်ကို တောင်းပန်တယ်။ ဒါပေမယ့် **ပရောဲ့စ်ပါရို** ကတော့ သူ(မ)ကို အလေးမထား ဂရုမစိုက်ပါဘူး။



'Come with me!' he said to Ferdinand, 'I'll make you my prisoner and my slave. I'll chain you neck and feet together. I'll feed you on dead roots and sea water. Follow me!'

Ferdinand was very angry. He, a king's son, to be treated like this! It was an insult! He tried to draw his sword to fight Pros-pero, but he found he could not move. prospero's magic power was too great for him, and Ferdinand decided that he could best show his love for Miranda by doing what Prospero ordered him to do. Miranda felt ashamed of her father's treat-ment of this gentle young man.

"မင်း. . . ငါနဲ့ လိုက်ခဲ့!" လို့ သူက **ဖာဒီနန်** ကို ပြောလိုက်တယ်။ "မင်းကို ငါ့ရဲ့ အကျဉ်းသား. . . ငါ့ရဲ့ ကျေးကျွန်အဖြစ် ခိုင်းစေရမယ်. . . မင်းရဲ့ လည်ပင်းနဲ့ ခြေထောက်တွေကို တွဲပြီး သံကြိုးနဲ့ ချည်ထားမယ်။ မင်းကို သစ်မြစ်ခြောက်နဲ့ ဆားငန်ရေပဲ တိုက်မယ်. . . ငါ့နောက် လိုက်ခဲ့စမ်း. . . !"

**ဖာဒီနန်** က သိပ်ကို ဒေါသထွက်သွားတယ်။ သူလို ဘုရင့်သားတော်တစ်ပါးကို ဒီလို ဆက်ဆံရသတဲ့လား! ဒါဟာ စော်ကားမှုတစ်ရပ်ပေပဲ. . . ! သူက **ပရော့စ်ပါရို** ကို တိုက်ခိုက်ရန် သူ့ဓားကို ဆွဲထုတ်ဖို့ ကြိုးစားတယ်။ ဒါပေမယ့် သူ လှုပ်တောင် မလှုပ်နိုင်တာကို တွေ့ရတယ်။ **ပရော့စ်ပါရို** ရဲ့ ထူးဆန်းတဲ့ မှော်တန်ခိုးသြဇာက. . . သူ့အတွက် ကြီးမားလွန်းပါတယ်။ ဒီတော့. . . **ပရော့စ်ပါရို** အမိန့်ပေး. . . စေခိုင်းသမျှကို ဆောင်ရွက်ပေးခြင်း အားဖြင့် **မီရင်ဒါ** အပေါ်ထားရှိတဲ့ မေတ္တာတရားကို အကောင်းဆုံးပြသမယ်လို့ **ဖာဒီနန်** က ဆုံးဖြတ်တယ်။ ဒီနူးညံ့သိမ်မွေ့တဲ့ သူငယ်လေးအပေါ်မှာ သူ(မ)ဖခင်ရဲ့ ပြုမူဆက်ဆံမှုနဲ့ ပတ်သက်ပြီး **မီရင်ဒါ** အနေနဲ့ ရှက်ရွံ့ မိတယ်။



'Be comforted!' she said to Ferdinand. 'My father is kinder than he seems. I am sure he will not harm you.'

And so Ferdinand obeyed Prospero's command and went to the cave. Here he ws made to cut wood and carry logs, just as Caliban had to do. But he did the work cheerfully and without complaint; content because he was near Miranda.

As for Miranda, she could not understand her father's behaviour. If Prospero knew Ferdinand to be the son of the King of Naples, how dare he treat the young man like a slave? It made tears come to her eyes to think of it.

"စိတ်ကိုလျှော့ပြီး. . . စိတ် ချမ်းချမ်းသာသာ နေပါနော်. . .!" လို့ သူ(မ)က **ဖာဒီနန်** ကို ပြော (ဆို နှစ်သိမ့်) တယ်။ "ကျွန်မအဖေက ထင်ရတာထက် ပိုပြီး ကြင်နာသနားတတ်ပါတယ်။ ရှင့်ကိုဒုက္ခ ပေးမှာ မဟုတ်ဘူး ဆိုတာ ကျွန်မ ကျိန်းသေပြောရဲပါတယ်။

အဲဒါကြောင့် **ဖာဒီနန်** က **ပရော့စ်ပါရို** ရဲ့အမိန့်ကို နာခံပြီး(လိုက်) ဂူထဲကို သွားပါတယ်။ အဲဒီမှာ **ကာလီဘန်** လုပ်တဲ့အတိုင်းပဲ. . . ထင်းခွဲရတယ်. . . သစ်တုံးတွေ သယ်ရတယ်။ ဒါပေမယ့် . . . သူက အလုပ်ကို ပျော်ပျော်ရွှင်ရွှင် မညည်းမညူလုပ်တယ်. . . ဘာကြောင့် ဆို သူက **မီရင်ဒါ** ရဲ့ အနားမှာ ရှိနေတယ်လေ. . .။

**မီရင်ဒါ** အတွက်ကတော့ သူ(မ) အဖေရဲ့ အပြုအမူ ကို နားမလည်နိုင်လောက်အောင်ပါပဲ။ အကယ်၍ **ပရော့စ် ပါရို** သာ **ဖာဒီနန်** ကို **နေပယ်လ်** ဘုရင့်သားတော်မှန်း သိသွားရင်. . . ဒီသူငယ်လေးကို ကျေးကျွန်တစ်ယောက် လို ခိုင်းတာဟာ ဘယ်လောက်ထိ ဝံ့ရဲတဲ့ အပြုအမူ ပါလဲ. . .? အဲဒီအကြောင်းတွေ စဉ်းစားမိတိုင်း သူ(မ)ရဲ့ မျက်ဝန်းမှာ မျက်ရည်တွေက ရွှဲစုဝေ့လည်လာကြပါတယ်။



Poor Ferdinand looked tired out with the unaccustomed work, and she begged him to let her help him.

'My father is hard at study.' she said.'Pray now, rest yourself: he's safe for these there hours.'

But Ferdinand continued to work, and while he worked he told Miranda how much he loved her.

'My heart files to your service,'he told her, and it is for your sake that I am this patient logman.'

'Do you love me?' Miranda asked.

Ferdinand repeated that he did, and made her promise to marry him as soon as he could return to Naples.

သနားစရာကောင်းတဲ့ **ဖာဒီနန်** လေးခမျာ လုပ်နေကျ မဟုတ်တဲ့. . . ကျင့်သားမရတဲ့. . . အလုပ်တွေကို လုပ်ရတဲ့အတွက် ပင်ပန်း နွမ်းလျနေပုံရတယ်။ သူ(မ) အနေနဲ့ သူ့ကို ဝိုင်းပြီး ကူညီညာလုပ်ခွင့်ပြုပါလို့. . . သူ(မ)က သူ့ကို တောင်းပန်တယ်။

"ကျွန်မ အဖေက နားလည်ဖို့ ခက်တယ်" လို့ သူ(မ)ကပြောတယ်။ "အခု. . . ကျေးဇူးပြုပြီး. . . (ခဏ လောက်) နားပါဦးရှင်. . .။ သူ့အခန္တရာယ်ကနေ သုံးနာရီ လောက် ဘေးကင်းရန်ကင်း ရှိပါတယ်. . . စိတ်ချရ ပါတယ်။"

ဒါပေမယ့် **ဖာဒီနန်** က အလုပ်ကို ဆက်လုပ် တယ်။ အလုပ်လုပ်နေရင်းနဲ့ သူက **မီရင်ဒါ** ကို ဘယ်လောက်ထိ ချစ်မြတ်နိုးရကြောင်း ပြောပြတယ်။

"ကိုယ့်နှလုံးသားက မင်းရဲ့ အမှုတော်ကို ထမ်းဖို့ အတွက် ပျံသန်းရောက်ရှိသွားပါပြီ။ ကိုယ်ဟာ စိတ်ရှည် သည်းခံပြီး ထင်းခွဲ ထင်းခုတ်သမားအလုပ်ကို လုပ်နေတာဟာ မင်းအတွက်ကြောင့်ပါ . . ." လို့ သူက သူ(မ)ကို ပြောပြတယ်။

"ရှင်က ကျွန်မကို မေတ္တာရှိလို့လား. . .?"လို့ **မီရင်ဒါ** ကမေးတော့. . .

**ဖာဒီနန်** က သူ့အနေနဲ့ တကယ်ချစ်ရပါကြောင်းနဲ့ **နေပယ်လ်** ကို ပြန်ရောက်ရောက်ချင်း သူ(မ)က သူ့ကို လက်ထပ်မယ်လို့ ကတိပေးဖို့ သူက ထပ်လောင်းပြောကြား တယ်။



'I have never before seen any man, except my father,' Miranda said, 'but I would not wish for any companion in the world except you.'

Unseen by Ferdinand and Miranda, Prospero had been listening to their conversation. he felt sure, now, that Ferdinand was a good man and would always be true to Miranda. So he appeared to them again and smiled at Ferdinand.

'If I have seemed cruel, it was only in order to test your love for each other,' he said. 'Now I feel I can trust my daughter to your care, Ferdinand. As soon as you return to Naples you may marry her.'

"အရင်ကဆိုရင်. . . ကျွန်မရဲ့ ဖခင်ကလွဲလို့. . . ဘယ်ယောက်ျားသားကိုမှ ကျွန်မ မမြင်မတွေ့ခဲ့ဖူးပါဘူး။ ဒါပေမယ့်. . . ဟောဒီကမ္ဘာပေါ်မှာ ရှင်ကလွဲရင် ဘယ်သူ့ကိုမှ ဘဝကြင်ဖော်အဖြစ် လက်တွဲလိုစိတ် မရှိပါဘူး. . ." လို့ **မီရင်ဒါ** ကပြောတယ်။

**ဖာဒီနန်** နဲ့ **မီရင်ဒါ** တို့ မမြင်စေဘဲ. . . **ပရော့စ်ပါရို** က သူတို့ချင်း ပြောတဲ့စကားတွေကို နားထောင်နေတယ်။ အခုအခါမှာ **ဖာဒီနန်** ဟာ လူကောင်းတစ်ယောက်ဖြစ်တယ်. . . **မီရင်ဒါ** အပေါ်မှာလည်း အမြဲတမ်း စစ်မှန်လိမ့်မယ်ဆိုတာ သေချာပြီလို့ သူသိရှိခံစားရတယ်။ ဒါကြောင့် သူက သူတို့ရဲ့ ရှေ့မှောက်ကို တစ်ခါပေါ်ပေါက် ရောက်ရှိလာပြီး. . . **ဖာဒီနန်** ကို ပြုံးပြ လိုက်တယ်။

"အကယ်၍. . . ငါဟာ ရက်စက်တယ်လို့ ထင်ရရင်လည်း. . . အဲဒီရက်စက်ရတာဟာ မင်းတို့နှစ်ယောက်. . . တစ်ယောက်အပေါ် တစ်ယောက်ထားတဲ့ မေတ္တာတရားကို စမ်းသပ်ဖို့ရန်အတွက်သာ ဖြစ်ပါတယ်။ အခုတော့. . . ငါ့ရဲ့ သမီးကို မင်းရဲ့ စောင့်ရှောက်မှုအောက်မှာ ထားဖို့ ငါ မင်းကို ယုံကြည်နိုင်ပြီ **ဖာဒီနန်**. . . မင်း **နေပယ်လ်** ကို ပြန်ရောက်ရောက်ချင်း သူ(မ)ကို မင်းလက်ထပ်နိုင်ပါပြီ" လို့ သူက ပြောလိုက်တယ်။



Ferdinand and Miranda were overjoyed, and Prospero left them together, saying he had work to do.

Meanwhile, things had not been going so well on the other side of the island, where the rest of the ship's party had been washed ashore, King Alonso was tired and unhappy, because he was sure his son Ferdinand had been drowned. Gonzalo, the kind old man who had helped Prospero twelve years before, tried to comfort his King by saying that Ferdinand was an excellent swimmer. The sailors had seen the young man swimming strongly towards the shore, and Gonzalo was sure that Ferdinand must have reached land somewhere.

**ဖာဒီနန်** နဲ့ **မီရင်ဒါ** တို့ဟာ အလွန့်အလွန်ကို ဝမ်းသာပီတိဖြစ်ကြရပါတယ်။ (အဲဒီနောက်) **ပရော့စ်ပါရို** က သူ့မှာ အလုပ်ကလေးတွေ ဆောင်ရွက်စရာရှိသေးလို့ သွားဦးမယ်လို့ ပြောရင်း. . . သူတို့နှစ်ဦးကို အတူတူထားရစ်ခဲ့ပြီး ထွက်ခွာသွားပါတယ်။

အဲဒီအချိန်မှာ. . . သင်္ဘောပေါ်ပါ. . . ကျန်လူတွေ ရောက်ရှိနေတဲ့ ကျွန်းရဲ့ အခြားတစ်ဖက်မှာတော့ အခြေအနေတွေက သိပ်မကောင်းလှပါဘူး။ **အလွန်ဆို** ဘုရင်က ပင်ပန်းနွမ်းလျပြီး စိတ်မချမ်းမသာ ဖြစ်နေရပါတယ်။ ဘာကြောင့်ဆို. . . သူ့ရဲ့ သားတော် **ဖာဒီနန် မင်းသား** ရေနစ်သေတာ သေချာတယ်လို့ သူက ယူဆခံစားရလို့လေ. . .။ လွန်ခဲ့တဲ့ (၁၂)နှစ်က **ပရော့စ်ပါရို** ကို ကူညီခဲ့ဖူးတဲ့ **ဂွန်ဇာလို** လည်း ပါတယ်။ သူက ကြင်နာသနား. . . ကရုဏာထားတတ်တဲ့ အဘိုးအိုတစ်ယောက် ဖြစ်တယ်။ သူက သူ့ရဲ့အရှင် ဘုရင်မင်းမြတ်ကို နှစ်သိမ့်အားပေးဖို့ ကြိုးစားတယ်။ **ဖာဒီနန်** ဟာ အလွန့် အလွန်တော်ပြီး ကျွမ်းကျင်တဲ့ ရေကူးသမားတစ်ယောက်ဖြစ်ကြောင်း၊ ကမ်းခြေဘက်သို့ မင်းသားလေး သန်သန်မာမာနဲ့ ကူးခတ်သွားတာကို သင်္ဘောသားတွေက မြင်ခဲ့ရကြောင်း၊ ဒါကြောင့်. . . **ဖာဒီနန်** ဟာ ကုန်းမြေတစ်နေရာရာမှာ ရောက်ရှိနေတယ်လို့ **ဂွန်ဇာလို** အနေနဲ့ ကျိန်းသေပြောရဲပါကြောင်း. . . လျှောက်ထားနှစ်သိမ့်တယ်။



But Alonso would not be comforted. It seemed to him that they must have seen the whole island already, as they had searched for hours; yet they had not found his son.

'No, no, he's gone. He is drowned,' the King said sadly. 'We can search no more. Let us sit down and rest.'

Prospero's brother, Antonio, and the King's brother, Sebastian, were with them, and they all sat down together on the grass. They had been constantly followed by Ariel, who made loud and frightening noises around them, and their hearts thirsty and hungry, too, but they had nothing to eat or drink, so Alonso and Gonzalo wrapped their coats around them and were soon fast asleep.

ဒါပေမယ့် **အလွန်ဆို** အနေနဲ့ နှစ်သိမ့်လို့မရဘဲ. . . ဖြေမဆည်နိုင် ဖြစ်နေပါတယ်။ သူ့အနေနဲ့ကတော့ သူတို့ဟာ. . . တစ်ကျွန်းလုံးအနှံ့ ရှာဖွေလို့ပြီးပြီ၊ နာရီပေါင်းများစွာလည်း ရှာဖွေလို့ပြီးပြီ. . . ဒါပေမယ့် သားတော်ကို ရှာလို့မတွေ့တော့ဘူးလို့ သူက ထင်မြင်နေပါတယ်။

"မဟုတ်ဘူးဗျ. . . မဟုတ်ဘူး. . .၊ သူ သွားရှာပါပြီဗျာ. . .၊ သူရေနစ်ပြီး သေရှာပါပြီ. . ."လို့ ဘုရင်က ကြေကွဲစွာ ပြောရှာတယ်။ "ဒီ့ထက်ပိုပြီးလည်း မရှာနိုင်တော့ပါဘူး. . . ကဲ. . . ကျုပ်တို့ ထိုင်ပြီး အနားယူကြရအောင်ဗျာ. . .။

**ပရော့စ်ပါရို** ရဲ့ ညီ **အန်တိုနီယို** နဲ့ ဘုရင်ရဲ့ ညီတော် **စီဘတ်စ်တီယန်** တို့လည်း သူတို့နဲ့ အတူရှိနေကြတယ်။ သူတို့အားလုံး မြင်ခင်းပြင်ပေါ်မှာ အတူတကွ ထိုင်လိုက်ကြတယ်။ သူတို့အားလုံးဟာ **အေရီယယ်လ်** ရဲ့ အမြဲမပြတ် လိုက်လံနှောင့်ယှက်တာကို ခံနေရတယ်။ သူက သူတို့ဝန်းကျင်မှာ ကျယ်လောင်ပြီး ကြောက်မက်ဖွယ်ကောင်းတဲ့ အသံတွေကို ဖန်တီးဖြစ်ပေါ်စေတယ်။ သူတို့ နှလုံးသားတွေမှာ ကြောက်ရွံ့မှုတွေ စိတ် ကယောက်ကယက်ဖြစ်မှုတွေနဲ့ ပြည့်လျှမ်းနေပါတယ်။ သူတို့ဟာ အစာငတ်ရေငတ်လည်း ဖြစ်နေကြတယ်။ ဒါပေမယ့် သူတို့မှာ စားစရာ သောက်စရာဆိုလို့ ဘာမှ မရှိပါဘူး။ ဒါကြောင့် **အလွန်ဆို** နဲ့ **ဂွန်ဇာလို**က သူတို့ရဲ့ ကုတ်အင်္ကျီလေးတွေကို တင်းတင်းစေ့. . . ထွေးပိုက်ရင်း. . . မကြာမီမှာ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်သွားပါတယ်။



The Wicked Antonio, however, was up to his old tricks. This time he was planning to kill his former friend, Alonso, and make Sebastian King of Naples in his place. Here was their chance! Alonso and Gonzalo were both sleeping peacefully and there was nobody to witness the crime. But Prospero, through his magic powers, knew what Antonio and Sebastian were planning to do. He sent Ariel to protect the king, and to frighten them all so much that they would be sincerely sorry for their past cruelty to Prospero and Miranda. Ariel arrived just in time; he found Antonio and Sebastian, their swords in their hands, standing over the sleeping king.

ဒါပေမယ့် ကောက်ကျစ်စဉ်းလဲတဲ့ **အန်တိုနီယို** ကတော့ သူရဲ့ ကလိမ်ကလည် ဉာဏ်နီဉာဏ်နက် နည်းလမ်းဟောင်းတွေ ပြန်ပေါ်လာပါတယ်။ ဒီအကြိမ်မှာတော့ အရင်က သူ့မိတ်ဆွေဟောင်း ဘုရင် **အလွန်ဆို** ကို လုပ်ကြံသတ်ဖြတ်ပြီး သူ့နေရာမှာ **စီဘတ်စ်တီယန်** ကို **နေပယ်လ်** ဘုရင်အဖြစ် တင်မြှောက်ဖို့စီစဉ်နေပါတယ်။ ဒီအချိန် ဒီနေရာဟာ သူတို့အတွက် တကယ့် အခွင့်အရေးကောင်းပေပဲ. . . **အလွန်ဆို** နဲ့ **ဂွန်ဇာလို** နှစ်ယောက်လုံးက နှစ်နှစ်ခြိုက်ခြိုက် ငြိမ်းငြိမ်းချမ်းချမ်း အိပ်ပျော်နေကြတယ်။ သူတို့ ကျူးလွန်မယ့် ရာဇဝတ်မှုကို သက်သေခံမယ့်. . . လူ မျက်မြင်သက်သေလည်း တစ်ယောက်မှ မရှိဘူး။ ဒါပေမယ့် **ပရော့စ်ပါရို** ကတော့ သူ့ရဲ့ မှော်ပညာအစွမ်းကြောင့် **အန်တိုနီယို** နဲ့ **စီဘတ်စ်တီယန်** တို့ အဲဒီလိုလုပ်ဖို့ စီစဉ်နေတာကို သိတယ်။ ဘုရင်ကို ကာကွယ်ဖို့ **အေရီယယ်လ်** ကို သူက လွှတ်လိုက်တယ်။ (ပြီးတော့) သူတို့တွေ အတိတ်က **ပရော့စ်ပါရို** နဲ့ **မီရင်ဒါ** အပေါ်ပြုမူခဲ့တဲ့. . . ရက်စက်မှုတွေအတွက် စစ်စစ်မှန်မှန် နောင်တရအောင်. . . အပြင်းအထန် ခြောက်လှန့်ဖို့ကိုလည်း မှာလိုက်တယ်။ **အေရီယယ်လ်** က အချိန်မီတယ် ဆိုရုံလေး ရောက်သွားတယ်။ သူရောက်သွားတော့. . . **အန်တိုနီယို** နဲ့ **စီဘတ်စ်တီယန်** တို့က သူတို့ရဲ့ ဓားရှည်တွေကို သူတို့လက်ထဲမှာ ကိုင်ထားကြတယ်။ အိပ်ပျော်နေတဲ့ ဘုရင်ရဲ့အပေါ်က မိုးပြီး ရပ်နေကြတယ်။



And he wakened Gonzalo and Alonso before any harm could be done.

But the king still had to be taught a lesson, and be punished for past crimes. The puzzled men suddenly heard strange and lovely music, and Ariel and the other fairies, dressed in mysterious shapes, set a wonderful feast before them. But just as the hungry men were sitting down to eat, Ariel changed himself into a great ugly bird. He flew noisily over the table, making everything disappear as mysteriously as it had appeared. Ariel, still in the shape of the bird, spoke to Alonso, Antonio and Sebastian.

(ခုတ်ပြီး သတ်တော့မယ့်ဆဲဆဲ. . .) ဘယ်လို ဘေးဒုက္ခအန္တရာယ်ကိုမျှ မပေးနိုင်ခင်မှာ. . . သူက **ဂွန်ဇာလို** နဲ့ **အလွန်ဆို** ကို နှိုးလိုက်တယ်။

သို့သော် ဘုရင်ကို သင်ခန်းစာတစ်ခုပေးဖို့ ကျန်သေးတယ်။ အတိတ်က ကျူးလွန်ခဲ့တဲ့ ရာဇဝတ်မှုတွေအတွက် အပြစ်ဒဏ်ပေးရဦးမယ်။ အကြံအိုက်နေတဲ့ လူတွေဟာ ထူးဆန်းပြီး သာယာတဲ့ တေးသံကို ရုတ်တရက် ကြားရတယ်။ **အေရီယယ်လ်** နဲ့ အခြားနတ်သား၊ နတ်သမီးတွေက ထူးဆန်းဆန်းပြားတဲ့ ပုံပန်းသဏ္ဌာန်အမျိုးမျိုးကို ဝတ်စားဆင်ယင်ပြီး . . . အလွန် ထူးခြားကောင်းမွန်တဲ့ စားပွဲကြီးတစ်ခုကို သူတို့ရှေ့မှာ တည်ခင်းတယ်။ ဒါပေမယ့် ဆာလောင်မွတ်သိပ်နေတဲ့ လူတွေစားမယ်လို့ ထိုင်ရုံမျှရှိသေး. . . **အေရီယယ်လ်** က ကြီးမားပြီး အရုပ်ဆိုးတဲ့ ငှက်ကြီးတစ်ကောင်အဖြစ် သူ့ကိုယ်သူ အသွင်ပြောင်းဖန်ဆင်းလိုက်တယ်။ သူက စားပွဲပေါ်ကနေ ဆူဆူညံညံ (အသံပေး) ပျံဝဲပြီး ပေါ်ပေါက်လာတုန်းကလိုပဲ. . . လျှို့ဝှက်ဆန်းကြယ်စွာနဲ့. . . အရာရာကို ပျောက်ကွယ်သွားစေတယ်။ **အေရီယယ်လ်** က ငှက်ရဲ့အသွင်. . . ငှက်ပုံပန်းနဲ့ပဲ. . . **အလွန်ဆို၊ အန်တိုနီယို** နဲ့ **စီဘတ်စ်တီယန်** တို့ကို စကားပြောတယ်။



'You are three wicked men,' he said. 'And you have been brought to this lonely island because you are too wicked to live with other men.'

He went on to tell them that this was their punishment for their cirme against Duke Prospero, and that only one thing could save them from death on the island. They must show sincere regret for their wickdeness, and promise to lead a better life in future.

Then with lightning flaming round him and a roll of thunder, Ariel disappeared.



"မင်းတို့ သုံးယောက်ဟာ ကောက်ကျစ်ယုတ်မာသူတွေ ဖြစ်တယ်။ အခြားလူတွေနဲ့(အတူ) နေထိုင်ဖို့ရန်အတွက် မင်းတို့ဟာ ကောက်ကျစ်စဉ်းလဲလွန်းလို့. . . မင်းတို့ကို ဟောဒီ အထီးကျန် လူသူကင်းမဲ့တဲ့ ကျွန်းကလေးသို့ ခေါ်ဆောင်လာတာ ဖြစ်တယ်။" လို့ သူက ပြောတယ်။

ဒါဟာဖြင့်. . . **မြို့စားကြီး ပရော့စ်ပါရို** အပေါ်မှာ ပြုခဲ့တဲ့. . . သူတို့ရဲ့ ရာဇဝတ်ပြုမှုအတွက်. . . သူတို့ခံရတဲ့ သူတို့ရဲ့ အပြစ်ဒဏ်ဖြစ်တယ်လို့ သူ က ဆက်ပြောတယ်။ "ကျွန်းပေါ်မှာ သေရမယ့်ဘေးကနေ ကိုယ့်ကိုယ်ကိုကယ်တင်ချင်ရင်. . . နည်းလမ်းတစ်ခုတည်းသာလျှင်ရှိတယ်။ အဲဒါကတော့ (အတိတ်က) ပြုခဲ့တဲ့ သူတို့ရဲ့ကောက်ကျစ်ယုတ်မာမှုတွေအတွက်. . စစ်မှန်တဲ့ နောင်တတရားကို ပြသဖို့. . . နဲ့ နောင်အနာဂတ်ကာလမှာပိုမိုကောင်းမွန်မြင့်မြတ်တဲ့ ဘဝတစ်ခုကို ရွေးရှုနေထိုင်ပါမယ်ဆိုတဲ့ ကတိတစ်ခုကို ပေးဖို့ပဲ ဖြစ်တယ်. . ."

အဲဒီလို ပြောဆိုပြီးတဲ့နောက်. . . သူ့ခန္ဓာကိုယ်ဝန်းကျင်မှာ လျှပ်စီး မီးတောက်မီးလျှံတွေ ဝိုင်း၊ မိုးခြိမ်းသံတွေ. . . တဂျိန်းဂျိန်း မြည်ဟီးပြီး. . . **အေရီယယ်လ်** ပျောက်ကွယ်သွားပါတယ်။



Alonso, Antonio and Sebastian were filled with fear and sorrow. Many violent and terrible things had happened to them within the last twenty-four hours, and they knew that the punishment was a just one. They swore they would be better men in future.

Then at last Prospero appeared before them in his magic coat. He thought they had been punished enought by all they had suffered since the beginning of the storm. At first they did not recognise him, but when he removed his magic coat and they saw who he was, they all begged his forgiveness and asked him to come back as Duke of Milan.

**အလွန်ဆို အန်တိုနီယို** နဲ့ **စီဘာတ်စ်တီယန်** တို့ရဲ့ ရင်ထဲမှာ ကြောက်ရွံ့မှုတွေ. . . သောကတရားတွေနဲ့ ပြည့်လျှမ်းလို့ နေပါတယ်။ ပြီးခဲ့တဲ့ နှစ်ဆယ့်လေးနာရီ အတွင်းမှာ အလွန်ပြင်းထန်ပြီး ကြောက်မက်ဖွယ်ကောင်းတဲ့ အရာတွေ အများကြီး ဖြစ်ပျက်ခဲ့ပါတယ်။ ဒီဒဏ်ခတ်မှုဟာ တရားမျှတတဲ့ ပြစ်ဒဏ်တစ်ခုဖြစ်တယ်ဆိုတာ သူတို့ သိရှိကြပါတယ်။ သူတို့တွေဟာ အနာဂတ်ကာလမှာ ပိုမိုကောင်းမွန်တဲ့လူသားတွေ ဖြစ်ရပါစေမယ်. . . လို့ ကျိန်ဆိုသစ္စာပြုကြတယ်။

နောက်ဆုံးမှ **ပရော့စ်ပါရို** က မှော်ဝတ်ရုံကြီးကို ဝတ်ဆင်ပြီး သူတို့ရဲ့ ရှေ့မှောက်ကို ပေါ်ပေါက်ရောက်ရှိလာ ပါတယ်။ မုန်တိုင်းစတိုက်တဲ့ အချိန်ကစပြီး ခံစားခဲ့ရတဲ့ အရာအားလုံးဟာ (သူတို့ရဲ့ ပြစ်မှုနဲ့ ပြစ်ဒဏ်ညီမျှသွားပြီး) သူတို့ကို လုံလောက်ထိုက်တန်အောင် အပြစ်ပေးပြီးပြီ လို့. . . သူက ထင်မြင်တွေးဆမိတယ်။ အစပထမမှာ သူတို့က သူ့ကို မမှတ်မိကြပါဘူး။ ဒါပေမယ့် သူ့ရဲ့ မှော်ဝတ်ရုံကို ဖယ်ခွာလိုက်တဲ့အခါမှာတော့ သူ ဘယ်သူလဲ ဆိုတာ သူတို့ သိရှိသွားကြတယ်။ သူတို့အားလုံးက ခွင့်လွှတ် ဖို့တောင်းပန်ကြတယ်။ **မီလန်မြို့စား** အဖြစ်နဲ့ ပြန်လိုက် လာဖို့ **(ပရော့စ်ပါရို** ကို**)** ပန်ကြားကြတယ်။



Prospero turned to Alonso.

'Since you have given me back my dukedom,' he said, 'I will repay you with as good a thing,' and he took him to the entrance of the cave which had been his home for so long. How thankful Alonso was when he looked inside, and saw Ferdinand sitting there with a beautiful girl! When he was told that the girl was Miranda, Prospero's daughter, Alonso begged her forgiveness for his former treatment of her father; and when he heard that Ferdinand was to marry this lovely girl, his happiness was great indeed.

'Give me you hands,' said Alonso to the two young people.

**ပရော့စ်ပါရို** က **အလွန်ဆို** ဘက်လှည့်လိုက်တယ်။ "သင်က ကျွန်ုပ်အား မြို့စားနယ်စားကြီးအရာကို ပြန်လည် ပေးအပ်တဲ့အတွက် ကျွန်ုပ်ကလည်း အလားတူ ကောင်းမြတ်သော အရာတစ်ခုကို သင့်အား ပြန်လည် အပ်နှင်းပါမည်. . . "လို့ပြောပြီး၊ နှစ်ကာလကြာမြင့်စွာ သူ့ရဲ့ အိမ်အဖြစ် အသုံးပြုခဲ့တဲ့ (လိုဏ်)ဂူရဲ့ အဝင်ဝသို့ သူ့ကို ခေါ်သွားတယ်။ **အလွန်ဆို** က ဂူအတွင်းဘက်ကို ကြည့်လိုက်တော့ (သားတော်) **ဖာဒီနန်** ကို မိန်းမချောလေး တစ်ယောက်နဲ့အတူ ထိုင်နေတာ တွေ့ရတယ်! သူက အရမ်းအရမ်းကို ကျေးဇူးတင်သွားတာပေါ့။ မိန်းကလေး ဟာ **ပရော့စ်ပါရို** ရဲ့ သမီး **မီရင်ဒါ** ဖြစ်တယ်လို့ သူ့ကို ပြောပြတဲ့အခါ သူ(မ)ဖခင်အပေါ်မှာ ယခင်က ပြုမူ ဆက်ဆံခဲ့တာတွေအတွက် ခွင့်လွှတ်ဖို့ **အလွန်ဆို** က တောင်းပန်တယ်။ ပြီးတော့ သားတော် **ဖာဒီနန်** က ချစ်စရာ ကောင်းတဲ့ ဒီမိန်းမချောလေးကို လက်ထပ်မယ်ဆိုတာ. . . သူကြားတော့. . . သူ့ရဲ့ ဝမ်းမြောက်ဝမ်းသာဖြစ်မှုဟာ တကယ့်ကို အထွတ်အထိပ်သို့ ရောက်သွားပါတယ်။

"မင်းတို့ရဲ့ လက်ကလေးတွေကို ပေးကြစမ်း" လို့ **အလွန်ဆို** က လူငယ်နှစ်ယောက်ကို ပြောလိုက်တယ်။ (သူတို့ လက်ကလေးတွေကို ကိုင်ရင်း. . . )



'And may all those who do not wish you well suffer pain and sorrow for the rest fo their lives.'

And now the faithful Ariel led the lost sailors to their King, and they brought the news that the ship was not wrecked, as everyone had feared. The next day they all sailed back to Milan, where Ferdinand and Miranda were married and prospero ruled again as Duke, to the great rejoicing of all his people.

Ariel flew with the ship as far as Italy, to protect it from storms, and then he was free for ever. He flew away across the sea, singing happily:

“အကြင်သူတို့သည် သူတို့၏ ကောင်းကျိုးချမ်းသာအား မလိုလားသည်ဖြစ်အံ့. . . ထိုသူတို့သည် မသေမီကျန်ရှိသည့် သူတို့ဘဝတစ်သက်တာပတ်လုံး ဒုက္ခနှင့်သောကဝေဒနာတို့ကို ခံစားကြရပါစေသတည်း’” လို့ ပတ္ထနာ ပြုလိုက်တယ်။

အခုအခါမှာ. . . သစ္စာရှိ **အေရီယယ်လ်** နတ်သားလေးက လမ်းပျောက်နေတဲ့ သင်္ဘောသားတွေကို သူတို့ရဲ့ ဘုရင်ထံ ခေါ်လာတယ်။ လူတိုင်း စိုးရိမ်ကြောက်ရွံ့နေကြသလို. . . သင်္ဘောကြီး မပျက်ဘူးဆိုတဲ့ သတင်းတွေကို သူတို့က သယ်ဆောင်လာကြတယ်။ နောက်တစ်နေ့မှာ သူတို့အားလုံး **မီလန်** မြို့ကို ရွက်လွှင့်ထွက်ခွာလာခဲ့ကြတယ်။ အဲဒီ မှာ **ဖာဒီနန်** နဲ့ **မီရင်ဒါ** တို့ လက်ထပ်ထိမ်းမြားကြတယ်။ **ပရော့စ်ပါရို** က မြို့စားအဖြစ် ပြန်လည်အုပ်ချုပ်စိုးစံတယ်။ ပြည်သူပြည်သားလူအများက အလွန်တရာဝမ်းမြောက်ဝမ်းသာ ဖြစ်ကြတယ်။

နတ်သားလေး **အေရီယယ်လ်** က **အီတလီ** ပြည်အထိ သင်္ဘောနဲ့အတူ ပျံသန်းလိုက်ပါခဲ့တယ်။ သင်္ဘောကို မုန်တိုင်းဘေးက ကင်းဝေးအောင် ကာကွယ်ဖို့လေ. . .။ အဲဒီနောက် သူဟာ ထာဝရ လွတ်လပ်ခွင့် ရသွားပါတော့တယ်. . . သူက သီချင်းလေးတစ်ပုဒ်ကို စိတ်လက်ချမ်းမြေ့စွာ သီဆိုရင်း ပင်လယ်ပြင်ကိုဖြတ်ပြီး ပျံသန်းထွက်ခွာသွားပါတော့တယ်. . .။

'Where the bee sucks, there suck I:
In a cowslip's bell I lie;
There I couch when owls do cry.
On the bat's back I do fly
After summer merrily.
Merrily, merrily shall I live now
Under the blossom that hangs on the bough.'





❖ ပိတုန်းပျားဝဲ. . . ဝတ်ရည်ပွဲမှာ
ငါလဲ(လည်း) စည်းစိမ်ယစ်တော့မည်။

❖ ပိတုန်းသို့ပင်. . .
ဝါကျင်ရွှေသက်၊ ပွင့်ဖတ်ထက်ဝယ်
ဇီးကွက်မြည်သံ၊ နားဇိမ်ခံ၍
တစ်ဖန်မောဖြေ အိပ်ဦးမည်. . .။

❖ တစ်နွေကုန်သော်၊ လေစုန်လေဆန်
ဝဲပျံမငြီး၊ လင်းနို့စီး၍
ခရီးဆန့်ချင် ဆန့်ဦးမည်. . .။

❖ မသွားလိုလျှင်၊ ပန်းပင်အရိပ်
တိတ်ဆိတ်နားနေ၊ အပန်းဖြေမည်
ငါလေ. . . လွတ်လပ်ပြီတကား. . .။

ꕥ ꕥ ꕥ



# MACBETH

## PEOPLE IN THE STORY

DUNCAN, King of Scotland.

| | |
|---|---|
| MALCOLM<br>DONALBAIN | his sons. |
| MACBETH<br>BANQUO | Generals of the King's army. |

MACDUFF, a Scottish nobleman.

GONZALO,an honest old nobleman.

LADY MACBETH.

THREE WITCHES.



# မက်က်ဘက်သ်

**ဇာတ်ကောင်များ (ပုံပြင်ထဲတွင် ပါဝင်သူများ)**

| | |
|---|---|
| **ဒန်ကင်** | စကော့တလန်ပြည့်ရှင်ဘုရင် |
| **မဲလ်ကွန်းမ်း** | } (၎င်း၏ သားတော်များ) |
| **ဒေါ် နယ်လ်ဘိန်း** | |
| **မက်က်ဘက်သ်** | } ဘုရင့်တပ်မတော်မှ ဗိုလ်ချုပ်များ |
| **ဘန်ကို** | |
| **လေဒီမက်က်ဘက်သ်** | |
| **စုန်းမကြီးသုံးယောက်** | |



ONCE, many years ago, there was a Scottish nobleman named Macbeth. He was the Thane ( or Lord) of Glamis, and a cousin of Duncan, King of Scotland. Mac-beth was a general in the king's army, a brave man and a fine soldier; and at the time the story opens he was fighting for the king against the King of Norway and a wicked Scottish Lord, the Thane of Cawdor. In the battle, the Thane of Cawdor was taken prisoner and the Norwegian king was forced to surrender; and the victorious Macbeth returned to the king's palace with his friend and fellow-soldier, Banquo.



နှစ်ပေါင်းများစွာ ကြာမြင့်တဲ့. . . ဟိုတစ်ချိန်တုန်းက ပေါ့. . .၊ **မက်က်သက်သ်** ဆိုတဲ့ စကော့လူမျိုးမှူးမတ် တစ်ယောက်ရှိတယ်။ သူက **ဂလန်းမစ်** နယ်စားကြီးဖြစ် သလို. . . စကော့တလန်ပြည့်ရှင်ဘုရင် **ဒန်ကင်** နဲ့ ညီအစ်ကို ဝမ်းကွဲတော်သူလည်း ဖြစ်တယ်။ **မက်က်ဘက်သ်** ဟာ ဘုရင့် တပ်မတော်မှ ဗိုလ်ချုပ်တစ်ယောက်ဖြစ်တယ်။ ရဲရင့်သတ္တိရှိပြီး. . . အလွန်တော်တဲ့ စစ်သားကောင်းကြီး တစ်ယောက်လည်း ဖြစ်တယ်. . .။ ဒီဇာတ်လမ်းစတဲ့ အချိန် မှာ သူဟာ. . . သူ့အရှင်ဘုရင်မင်းမြတ်အတွက် ရန်သူ တွေကို တိုက်ခိုက်နှိမ်နင်းနေတယ်။ ရန်သူတွေကတော့ **နော်ဝေးဘုရင်** နဲ့ ကောက်ကျစ်ယုတ်မာတဲ့. . . စကော့ လူမျိုးအမတ် **ကောဒါနယ်စားကြီး** တို့ ဖြစ်တယ်။ တိုက်ပွဲမှာ **ကောဒါ** နယ်စားကြီးကို အကျဉ်းသားအဖြစ် လက်ရဖမ်းဆီး ရမိတယ်။ **နော်ဝေ** ဘုရင်ကိုတော့ အတင်းအကျပ် လက်နက်ချစေတယ်။ အဲဒီနောက် အောင်ပွဲရလာတဲ့ **မက်က် ဘက်သ်** ဟာ သူ့ရဲ့ရောင်းရင်း ရဲဘော်ရဲဘက်(စစ်ဗိုလ်ချုပ်) **ဘန်ကို** နဲ့အတူ ဘုရင့်ရွှေနန်းတော်ကို ပြန်လာခဲ့ကြတယ်။



On their way back from the battle-field, they had to cross and open treeless stretch of country called a heath. The day was dark and stormy, but suddenly a flash of lightning showed three mysterious figures standing in front of the two men.

'Who are these, so strange and wild in their appearance?' said Banquo in surprise. 'They do not look like human beings.'

The three strange old women stood in silence, their fingers to their lips, and Macbeth said sharply: 'Speak if you can. What are you?'

စစ်မြေပြင်ကအပြန် လမ်းခုလတ်မှာ သစ်ပင်ချုံနွယ် မပေါက်ဘဲ. . . ရှည်လျားကျယ်ပြန့်တဲ့ ကွင်းပြင်ကြီးတစ်ခု ကို သူတို့ဖြတ်သန်းရတယ်။ အဲဒီနေ့က မှောင်မည်းပြီး မိုးလေ ထန်တဲ့ နေ့တစ်နေ့ ဖြစ်တယ်။ ဒါပေမယ့် လျှပ်စီးတစ်ချက် ရုတ်တရက်. . . လက်လိုက်တဲ့အခါ. . . အဲဒီ လူနှစ်ယောက် ရဲ့ ရှေ့မှာ ဆန်းကြယ်တဲ့ ပုံပန်းသဏ္ဍာန်ကြီးသုံးခုကို မြင်ရ တယ်။ (လျှပ်စီးလက်တဲ့အရောင်က ပုံပန်းသဏ္ဍာန်ကြီး သုံးခုကို မြင်နိုင်စေတယ်)

"သူတို့ရဲ့ သွင်ပြင်ပုံပန်းက သိပ်ထူးဆန်းပြီး သိပ် ချောက်ချားဖွယ်ကောင်းတဲ့. . . ဒီဟာတွေက ဘယ်သူတွေ ပါလိမ့်. . . ? သူတို့ကို ကြည့်ရတာ လူ(သား)နဲ့လည်း မတူဘူး. . . "လို့ **ဘန်ကို** က တအံ့တသြ ပြောလိုက် တယ်။

ထူးဆန်းတဲ့ အဘွားအိုကြီး သုံးယောက်က တိတ်တိတ် ဆိတ်ဆိတ်ရပ်နေတယ်။ သူတို့လက်ချောင်းလေးတွေကို သူတို့ နှုတ်ခမ်းလေးတွေပေါ်မှာ တင်ထားတယ်။ "ခင်ဗျားတို့ စကားပြောနိုင်ရင်. . . ပြောပါ။ ခင်ဗျားတို့က ဘာတွေ လဲ. . . ?" လို့ **မက်ကဘက်သ်** က ချက်ချင်းပဲ မေးလိုက် တယ်။



Now, as banquo had suspected, these women were not human beings but witches: strange creatures who had the power to see into the future, and to speak of matters which had not yet occurred. The first witch now addressed Macbeth as 'Thane of Glamis,' but the second called him 'Thane of Cawdor, 'and the third made an even more surprising statement. She said to Macbeth: 'You will be King of Scotland.'

While Macbeth and Banquo stood speechless with surprise, the witches turned to Banquo and said: 'Your sons will be kings, although you will not.' And then, with a flash of lightning and a roll of thunder, the three old women disappeared.

**ဘန်ကို** သံသယဖြစ်တဲ့အတိုင်းပဲ. . . အဲဒီမိန်းမကြီးတွေဟာ လူသားတွေမဟုတ်ဘူး။ စုန်းမကြီးတွေဖြစ်တယ်။ သူတို့တွေက အနာဂတ်ကို ကြိုတင်သိမြင်နိုင်တဲ့. . . တန်ခိုးစွမ်းရည်ရှိတဲ့. . . ထူးဆန်းတဲ့. . . သတ္တဝါတွေဖြစ်တယ်။ အခုလောလောဆယ်မှာ မဖြစ်ပျက်မပေါ်ပေါက်သေးတဲ့ ကိစ္စတွေကို ပြောဆိုတယ်။ ပထမစုန်းမကြီးက **မက်က်ဘက်သ်** ကို ရည်ညွှန်းပြီး တိုက်ရိုက်ပြောဆိုတယ်။ **'ဂလန်းမစ် နယ်စားကြီး'** ဒါပေမယ့် ဒုတိယစုန်းမကြီးက **'ကောဒါ နယ်စားကြီး'** လို့ သူ့ကိုခေါ်တယ်။ တတိယ တစ်ယောက်က ပိုပြီးတော့ အံ့သြဖို့ကောင်းတဲ့အကြောင်းအရာကို ပြောဆိုတယ်။ သူ(မ) က **မက်က်ဘက်သ်** ကို "သင်သည် **စကော့တလန် ပြည့်ရှင်ဘုရင်**ဖြစ်လိမ့်မည်" လို့ ပြောတယ်။

**မက်က်ဘက်သ်** နဲ့ **ဘန်ကို** က စကားမပြောနိုင်အောင် အံ့အားသင့်ပြီး ရပ်(ကြည့်)နေတုန်းမှာ. . . စုန်းမကြီးတွေက **ဘန်ကို** ဘက် လှည့်ပြီး **"သင်ကိုယ်တိုင်က ဘုရင် မဖြစ်နိုင်သော်လည်း. . . သင်၏သားများသည် ဘုရင်ဖြစ်လိမ့်မည်. . ."** လို့ ပြောလိုက်တယ်။ အဲဒီနောက် လျှပ်စီးတွေလက် မိုးတွေခြိမ်းပြီး အဘွားအိုကြီးသုံးယောက် ပျောက်ကွယ်သွားပါတယ်။



Banquo turned to Macbeth in amazement. 'Did we really see three mysterious old women?' he asked. 'Or have we eaten some poisonous root which has turned us mad?'

'They said your children will be king,' Macbeth said slowly, and Banquo added: 'And you will be king.'

'And Thane of Cawdor, too,' said Macbeth. 'Didn't they say that?' He shook his head doubtfully. 'The thane of Cawdor is still alive. And how could I never become king? Duncan has two sons. The old witches must be wrong.'

**ဘန်ကို** က **မက်က်ဘက်သ်** ကို တအံ့တသြနဲ့ လှည့်လိုက်တယ်။ "ကျွန်တော်တို့တွေ ထူးဆန်းတဲ့ အဘွားအိုသုံးယောက်ကို တကယ် မြင်ခဲ့ကြတာလား. . . ? ဒါမှမဟုတ် ကျွန်တော်တို့တွေ အဆိပ်အတောက်ရှိတဲ့ သစ်မြစ်သစ်ဉ စားမိလို့. . . ကျွန်တော်တို့ ရူးသွပ်သွားတာများလား?" လို့ မေးလိုက်တယ်။

"မင်းရဲ့သားတွေ ဘုရင်ဖြစ်လိမ့်မယ်လို့ သူတို့က ပြောသွားတာပဲလေ" လို့ **မက်က်ဘက်သ်** က တုံ့နှေးစွာ ပြောလိုက်တယ်။ "ပြီးတော့ ခင်ဗျားကိုလည်း ဘုရင်ဖြစ်လိမ့်မယ်လို့ ပြောသွားတာပဲ. . . "လို့ **ဘန်ကို** က ထပ်လောင်းပြောဆိုတယ်။

"ပြီးတော့ **ကောဒါနယ်စားကြီး** လို့လည်း ပြောသွားတယ်လေ" "အဲဒီလို သူတို့က ပြောသွားတာ မဟုတ်ဘူးလား. . . ?"လို့ **မက်က်ဘက်သ်** က မေးလိုက်တယ်။ ယုံမှားသံသယစိတ်နဲ့ ခေါင်းခါလိုက်တယ်။ "**ကောဒါနယ်စားကြီး** ကအခုထိ အသက်ရှင်လျက်ရှိသေးတယ်။ ပြီးတော့ ကျုပ်က ဘယ်လိုလုပ်ပြီး ဘုရင်ဖြစ်နိုင်မှာလဲ. . . ? **ဒန်ကင်ဘုရင်** မှာ သားနှစ်ယောက် ရှိတယ်။ ဒီစုန်းမအိုကြီးတွေ မှားတာပဲ ဖြစ်ရမယ်. . . "



But as they stood there, wondering at the strange words they had heard, two noblemen came riding across the heath towards them. They brought the surprising news that King Duncan, wishing to reward Macbeth for his bravery in battle, had made him Thane of Cawdor, in place of the wicked Thane who had been taken prisoner and sentenced to death.

And thus the first words of the old withces had already come true. Macbeth said softly to Banquo: 'Do you hope your children will be kings? It was promised to you by those old women who said I should be Thane of Cawdor.'



ဒါပေမယ့်. . . သူတို့ ကြားခဲ့ရတဲ့ ထူးထူးဆန်းဆန်း စကားတွေကို စဉ်းစားရင်း. . . အဲဒီနေရာမှာပဲ သူတို့ ရပ်နေတုန်း. . . မှူးမတ်နှစ်ယောက်က ကွင်းပြင်ကြီးကို ဖြတ်. . . မြင်းစီးရင်း သူတို့ဆီ လာနေတယ်။ သူတို့က အံ့သြဖွယ်ကောင်းတဲ့ သတင်းတွေကို သယ်ဆောင်လာကြတယ်။ စစ်မြေပြင်တိုက်ပွဲမှာ **မက်က်ဘက်သ်** ရဲ့ ရဲရင့်သတ္တိကို **ဒန်ကင်ဘုရင်** က ဆုချီးမြှင့်လိုတယ်။ ဒါကြောင့်. . . (စစ်ရှုံးပြီး) အကျဉ်းသားအဖြစ် ဖမ်းဆီးခံထားရတဲ့ ကောက်ကျစ်သူ **ကောဒါနယ်စား** ကို သေဒဏ်ပေးလိုက်တယ်။ သူ့ နေရာမှာ **မက်က်ဘက်သ်** ကို **ကောဒါနယ်စားကြီး** အဖြစ် ခန့်အပ်တယ်။

အဲဒီလို. . . နဲ့ စုန်းမအိုကြီးတွေရဲ့ ပထမစကားတွေဟာ မှန်လာခဲ့တယ်။ **မက်က်ဘက်သ်** က "ခင်ဗျားရဲ့ သားတွေ ဘုရင်ဖြစ်လိမ့်မယ်လို့ ခင်ဗျားမျှော်လင့်ထားသလား. . . ?" "ကျွန်တော့်ကို **ကောဒါနယ်စားကြီး** ဖြစ်ရမယ် လို့ ပြောသွားတဲ့ ဟိုမိန်းမကြီးတွေပဲ ခင်ဗျားကို ကတိပေးသွားကြတာလေ. . . "လို့ **ဘန်ကို** ကို တိုးတိတ်ညင်သာမေးလိုက်တယ်။



Banquo was greatly troubled. He called the mysterious witches 'the instruments of darkness,' and said that he feared their words. He felt that Macbeth might try, by wicked means, to make himself kig; he might have a superstitious felling that it was a natural course, because the witches had sworn that it would happen. And Banquo's fears were right. The witches' promise had planted a seed of wicked ambition in Macbeth's mind, and the influence of their words is seen in all the events that follow.

**ဘန်ကို** က အရမ်းကို ပူပန်စိုးရိမ်သွားတယ်။ သူက လျှို့ဝှက်ဆန်းကြယ်တဲ့ စုန်းမကြီးတွေကို 'အကုသိုလ်နိမိတ်ဆိုး' တွေလို့ ခေါ်ဝေါ်သမုတ်တယ်။ သူတို့ရဲ့ စကားတွေကို သူ. . . ကြောက်လန့် စိုးရိမ်မိကြောင်း ပြောဆိုတယ်။ **မက်ကဘက်သ်** က ကောက်ကျစ်ယုတ်မာတဲ့ နည်းလမ်းတွေသုံးပြီး. . . သူ့ကိုယ်သူ ဘုရင်ဖြစ်အောင် ကြိုးစားကောင်း ကြိုးစားနိုင်တယ်. . . လို့ သူ့စိတ်ထဲမှာ ခံစားရတယ်။ စုန်းမကြီးတွေက ဘုရင်ဖြစ်လိမ့်မယ်လို့ ကျိန်ဆိုပြောကြားထားတဲ့ အတွက် ဒါတွေဟာ သဘာဝ အလျောက်ဖြစ်ရိုးဖြစ်စဉ်. . . ဖြစ်ကိုဖြစ်လာရမယ့် အရာတွေလို့ **မက်ကဘက်သ်** မှာ အယူသီးပြီး အစွဲအလမ်းကြီးတဲ့ သဘောထားတွေ ရှိလာနိုင်တယ်. . . လို့ **ဘန်ကို** က စိုးရိမ်တယ်။ **ဘန်ကို** ရဲ့ ကြောင့်ကြစိုးရိမ်မှုတွေဟာ မှန်ကန်လာခဲ့ပါတယ်။ စုန်းမကြီးတွေရဲ့ ကတိစကားက **မက်ကဘက်သ်** ရဲ့ရင်ထဲ (စိတ်ထဲ)မှာ ယုတ်မာတဲ့ လောဘမျိုးစေ့တစ်ခုကို စိုက်ပျိုးရှင်သန်စေခဲ့ပါပြီ။ နောက်ပိုင်း ဖြစ်ပျက်လာတဲ့ ဖြစ်ရပ်အားလုံးမှာ . . . သူတို့ပြောကြားခဲ့တဲ့ စကားတွေရဲ့ လွှမ်းမိုးမှုတွေကို တွေ့မြင်ရမှာဖြစ်ပါတယ်။



Meanwhile, King Duncan wished to show Macbeth great honour, and decided to visit him at his castle. Macbeth asked permission to go home at once, to prepare for the royal visit; but before he left he palace he sent a letter to Lady Macbeth, his wife, telling her about the stranbe witches and how the first part of their promise had already come true.

Now, Lady Macbeth was a very ambitious woman, more cruel and determined than her husband. She at once made up her mind that Macbeth should become king, and that the quickest way to achieve this was to murder King Duncan. Duncan was already on his way to visti them, and it seemed to her that Fate was on her side.

ခုလောလောဆယ်မှာတော့. . . **ဒန်ကင်ဘုရင်** က **မက်က်ဘက်သ်** ကို အကြီးအကျယ်ဂုဏ်ပြုကြောင်း ပြသဖို့ ဆန္ဒရှိတော်မူတဲ့အတွက် ဘုရင်ကိုယ်တော်တိုင် သူ့ (**မက်က်ဘက်သ်**)ရဲ့ ရဲတိုက်ကို သွားရောက်လည်ပတ်မယ်လို့ ဆုံးဖြတ်တယ်။ ဘုရင်မင်းမြတ်ကြွချီမယ့်. . . အလည် အပတ်ခရီးအတွက် ကြိုတင်ပြင်ဆင်ဖို့ သူ့အိမ်ကို ချက်ချင်း ပြန်ခွင့်ပြုပါရန်. . . **မက်က်ဘက်သ်** က ခွင့်တောင်းတယ်။ ဒါပေမယ့် နန်းတော်က မထွက်ခွာခင်မှာ ဇနီးဖြစ်သူ **လေဒီမက်က်ဘက်သ်** ထံ စာတစ်စောင်ပို့လိုက်တယ်။ စာထဲ မှာ ထူးဆန်းတဲ့ စုန်းမကြီးတွေအကြောင်းရယ်. . . သူတို့ ကတိစကားရဲ့ ပထမပိုင်းဟာ ဘယ်လိုဘယ်ပုံ မှန်ခဲ့ပြီဆိုတာ ရယ်. . . သူ(မ)ကို ပြောပြလိုက်တယ်။

အခုအခါမှာ. . . **လေဒီမက်က်ဘက်သ်** ဟာ အလွန် လောဘကြီးတဲ့ အမျိုးသမီးကြီးတစ်ယောက် ဖြစ်တယ်။ သူ့ ခင်ပွန်းသည်ထက် ပိုမိုရက်စက်. . . ပိုမိုစိတ်ဓာတ်ခိုင်မာ ပြတ်သားသူ ဖြစ်တယ်။ **မက်က် ဘက်သ်** ဘုရင်ဖြစ်ရမယ်လို့ သူ(မ)ရဲ့ စိတ်က ချက်ချင်းပဲ သန္နိဋ္ဌာန်ချလိုက်တယ်။ ဒီကိစ္စကို စွမ်းဆောင် အောင် မြင်ဖို့ အမြန်ဆုံးနည်းလမ်းက **ဒန်ကင်ဘုရင်** ကို လုပ်ကြံ သတ်ဖြတ်ဖို့ ဖြစ်တယ်လို့ ဆုံးဖြတ်တယ်။ **ဒန်ကင်** ဟာ အခုဆိုရင် သူတို့ဆီ လာရောက်လည်ပတ်ဖို့ လမ်းခုလတ် မှာ ရောက်နှင့်နေပြီ။ အဲဒါကိုက ကံကြမ္မာဟာ သူ(မ)ရဲ့ ဘက်ကနေ ဖေးကူနေတယ်လို့ ထင်မြင်ရတယ်။



Those 'instrument of darkness,' so greatly feared by the honest and noble Banquo, were already influencing this ambitious woman.

When Macbeth arrived, she at once told him her plan. she said Macbeth must welcome the king with great friendiness. 'Bear welcome in your eye, your hand, your tongue,' she said. 'Look like the innocent flower, but be the serpent under it. Tonight we will arrange his death.'

ရိုးသားပြီးမြင့်မြတ်တဲ့ **ဘန်ကို** က အလွန်ကြောက်ရွံ့ စိုးရိမ်မိပြီး 'အကုသိုလ်နိမိတ်ဆိုး' တွေလို့ သတ်မှတ်ထားတဲ့ အရာတွေက. . . ဒီလောဘဇောတက်နေတဲ့ အမျိုးသမီး ကြီးကို လွှမ်းမိုးနှင့်ပြီးသွားပါပြီ။

**မက်က်ဘက်သ်** ရောက်လာတဲ့အခါ. . သူ(မ)ရဲ့ အစီအစဉ်ကို ချင်ချင်းပြောပြတယ်။ **မက်က်ဘက်သ်** က ကြီးစွာသော ချစ်ခင်လေးစားမှု၊ ရင်းနှီးဖော်ရွေမှုနဲ့ ဘုရင်မင်းမြတ်ကို ကြိုဆိုရမယ်. . . လို့ သူ(မ)က ပြောတယ်။ "ကြည့်တဲ့ရှုတဲ့ ရှင့်မျက်လုံး(တွေ). . လှုပ်ရှား ကြိုဆိုတဲ့. . . ရှင်လက်(တွေ) ပြောတဲ့ဆိုတဲ့ ရှင့်(နှုတ်) လျှာတွေ. . ." မှာ အားရဝမ်းသာကြိုဆိုမှု အပြည့်ရှိနေ ပါစေ. . .။ ပြစ်မျိုးမှဲ့မထင်တဲ့ ပန်းမာလာလေးတစ်ပွင့်နဲ့ တူပါစေ. . .။ ဒါပေမယ့် အဲဒီဟာရဲ့ အောက်မှာတော့ (အဆိပ်ပြင်းတဲ့) မြွေတစ်ကောင်. . . အဖြစ်ရှိနေပါစေ. .။ သူသေဖို့ရန် အကြောင်းတရား. . . သူ့သေဘေးကို ကျွန်မတို့ ဒီညပဲ စီစဉ်ကြမယ်. . ."လို့ သူ(မ)က ပြောတယ်။



Macbeth was filled with doubts, his anxious mind a mixture of hope and fear. How could he murder Duncan, who was not only his king but his cousin and his guest? But his hard-hearted wife said firmly: 'All you have to do is to give him a royal and friendly welcome. Leave the rest to me.'

The King arrived that evening, and after a meal he went early to bed. Macbeth, making one last fight against ambition, said to his wife: 'We will go no further in this business. The King has done me great honour and I cannot deceive him.'

**မက်က်ဘက်သ်** ကတော့ ဒွိဟတွေ မဝေခွဲနိုင်မှုတွေနဲ့ ပြည့်လျှမ်းနေတယ်။ သူ့ရဲ့ ကြောင့်ကြစိုးရိမ်တဲ့စိတ်မှာ မျှော်လင့်ချက်တွေ အကြောက်တရားတွေ ရောယှက်လို့နေပါတယ်။ သူရဲ့ အရှင်သခင်ဘုရင် ဖြစ်ရုံသာမက. . . သူနဲ့ ညီအစ်ကိုဝမ်းကွဲလည်း တော်. . . ဧည့်သည်တော်လည်း ဖြစ်နေတဲ့ **ဒန်ကင်** ကို သူ ဘယ်လိုသတ်နိုင်မှာလဲ. . . ?။ ဒါပေမယ့် စိတ်နှလုံး ခက်ထန်မာကျောတဲ့ ဇနီးသည်ကတော့ အခိုင်အမာမလျှော့တမ်းပြောတယ်။ "ရှင်လုပ်ရမယ့် အလုပ်က. . . သူ့ကိုတော်ဝင်အခမ်းအနားနဲ့ လှိုက်လှဲပျူငှာ ဝမ်းမြောက်စွာကြိုဆိုဖို့ တစ်ခုတည်းပါ။ ကျန်တာကို ကျွန်မ တာဝန်ထားပါ။

အဲဒီညနေမှာ ဘုရင်မင်းမြတ် ကြွချီရောက်ရှိလာပါတယ်။ ညစာပွဲတော်တည်ပြီးတဲ့အခါ. . . အစောကြီးစက်တော်ခေါ်(အိပ်ရာဝင်) ပါတယ်။ နောက်ဆုံးအကြိမ်အနေ့ လောဘစိတ်ကိုတွန်းလှန်ပြီး. . . **မက်က်ဘက်သ်** က သူ့ဇနီးသည်ကို ပြောတယ်. . .။ "ဒီကိစ္စကို ရှေ့မဆက်ကြပါစို့နဲ့ကွာ. . .။ ဘုရင်မင်းမြတ်က ငါ့ကို အကြီးအကျယ် ချီးမြှင့်မြှောက်စားတယ်။ ငါ့အနေနဲ့ သူ့ကိုလိမ်လည်လှည့်စားပြီး အကောက်မကြံချင်ဘူး. . ."



But lady Macbeth had made her plans, and she would let nothing stand in her way,'Are you a coward?' she said angrily. 'Will you give up your chance of becoming king, just because you are afraid?'

'But if we fail....' Macbeth argued uncertainly.

'Screw up your courage to the highest point, and we'll not fail.' said Lady Macbeth, and told Macbeth her plan. She would give Duncan's two guards so much strong wine to drink that they would become drunk and stupid. Then, when they were all sleeping, she and Macbeth would murder the king, and put the blame on the drunken bodyguard.

ဒါပေမယ့် **လေဒီမက်က်ဘက်သ်** က သူ(မ)ရဲ့ အစီအစဉ်တွေကို ဆွဲပြီးနေပြီ၊ သူ(မ) စီစဉ်ထားတဲ့ လမ်းကြောင်းမှာ ဘယ်အဟန့်အတားကိုမှ ခွင့်ပြုမယ် မဟုတ်ပေဘူး။ "ရှင်က သူရဲဘောနည်းတဲ့ လူတစ်ယောက် လား. . . ?" လို့ သူ(မ)က စိတ်ဆိုးမာန်ဆိုး မေးလိုက် တယ်။ "ဘုရင်ဖြစ်လာမယ့် ရှင့်ရဲ့ အခွင့်အရေးကို . . . ရှင်. . . ကြောက်တယ်ဆိုတဲ့ အကြောင်း တစ်ခုတည်းနဲ့ လက်လွှတ်ဆုံးရှုံးခံတော့မလား. . . ?"

"ဒါပေမယ့်. . . ဒို့တွေ မအောင်မြင်. . . " **မက်က် ဘက်သ်** မသေမချာနဲ့ ဆင်ခြေဆင်လက်တတ်ပြီး ဖော်ပြ ပြောဆိုတယ်။

"ရှင့်ရဲ့ သတ္တိကို အမြင့်ဆုံးနေရာရောက်တဲ့အထိ မြှင့်တင်ထားလိုက်စမ်းပါ. . . ကျွန်မတို့ မအောင်မမြင် မဖြစ်ပါဘူး. . . "လို့ **လေဒီမက်က်ဘက်သ်** က ပြောလိုက် တယ်။ ပြီးတော့ သူ(မ)ရဲ့ အစီအစဉ်ကို **မက်က်ဘက်သ်** သို့ ပြောပြတယ်။ သူ(မ)က **ဒန်ကင်** ရဲ့ ကိုယ်ရံတော် အစောင့်နှစ်ယောက်ကို သိပ်ပြင်းတဲ့ ဝိုင်အရက်တွေ တိုက်မယ်. . . သူတို့ အရက်မူးပြီး လူမှန်းသူမှန်း မသိ ဖြစ်သွားလိမ့်မယ်။ အဲ့ဒီနောက်. . . သူတို့အားလုံး အိပ်သွားတဲ့အခါ သူ(မ)နဲ့ **မက်က်ဘက်သ်** က ဘုရင်ကို သတ်မယ်။ ပြီးတော့ အရက်မူးနေတဲ့ ကိုယ်ရံတော်တွေ အပေါ် အပြစ်ကိုပုံချမယ်။



Late that night, when everyone in the castle was asleep, Lady Macbeth crept quietly to Duncan's room with a dagger in her hand, She feared her husband's weakness and was determined to murder the king herself. But when she saw him lying there asleep, something in his reminded her of her father, and she found she could not kill him. She returned to Macbeth, gave him the dagger, and told him to do the deed.

After a few moments her returned to her, shaking with fright. 'I have done the deed,' he cried. 'But didn't you hear a noise?'

အဲ့ဒီည ညဥ့်နက်ပိုင်း. . . ရဲတိုက်ထဲက လူတိုင်း အိပ်ပျော်သွားကြတဲ့အခါ. . . **လေဒီမက်ကက်ဘက်သ်** က လက်ထဲမှာ ဓားမြှောင်ကို ကိုင်ပြီး **ဒန်ကင်** အခန်းဆီ. . . ပုန်းလျှိုးကွယ်လျှိုးနဲ့ သွားတယ်။ သူ(မ)ယောက်ျားရဲ့ အားနည်းချက် ပျော့ကွက်ကို သူ(မ)က စိုးရိမ်တယ်၊ ဒါကြောင့် ဘုရင်ကို သူ(မ)ကိုယ်တိုင် သတ်မယ်လို့ စိတ်ကိုပိုင်းဖြတ် သန္နိဋ္ဌာန်ချတယ်။ ဒါပေမယ့်. . . လဲလျောင်းအိပ်ပျော်နေတဲ့ ဘုရင်ကို တွေ့တော့. . . သူ့ မျက်နှာပေါ်က တစ်စုံတစ်ရာက သူ(မ)ရဲ့ ဖခင်ကို သတိရစေတယ်။ ဒီတော့ သူ့ကို သူ(မ) အနေနဲ့ မသတ်နိုင် မသတ်ရက်တာကို တွေ့ရတယ်။ သူ(မ)က **မက်ကက်ဘက်သ်** ဆီ ပြန်လာတယ်။ သူ့ကို ဓားမြှောင်(တွေ) ပေးလိုက်တယ်။ လုပ်ကြံဖို့ ကိစ္စကို သွားရောက်ဆောင်ရွက်ဖို့ ပြောလိုက်တယ်။

အချိန်အနည်းငယ်ကြာတော့ **မက်ကက်ဘက်သ်** က သူ(မ)ဆီ ပြန်လာတယ်။ ကြောက်ရွံ့မှုကြောင့် တုန်တုန်ယင်ယင် ဖြစ်နေတယ်။ "ငါ. . . အဲဒီကိစ္စကို ဆောင်ရွက်လို့တော့ပြီးပြီ. . . ဒါပေမယ့်. . . အသံကြီးတစ်သံကို မင်း မကြားဘူးလား. . . ?" လို့ ငိုကြွေး မေးမြန်းလိုက်တယ်။



Lady Macbeth tried to calm him, but he went on: 'Someone laughed in his sleep, and another cried "Murder!" I thought I heard a voice cry "Sleep on more! Macbeth does murder sleep".'

'What do you mean?' said Lady Macbeth sharply, and Mecbeth went on, his voice full of fear: 'I tell you, someone cried "Sleep no more! Glamis has murdered sleep, and threrfore Cawdor shall sleep no more; Macbeth shall sleep no more".'

အေးဆေးသွားစေဖို့ ကြိုးစားဖျောင်းဖျတယ်။ ဒါပေမယ့် သူက ဆက်ပြောတယ်။ "တစ်ယောက်ယောက် အိပ်ပျော်နေရင်းနဲ့ ရယ်တယ်။ တခြားတစ်ယောက်က "လူသတ်နေတယ်!"လို့ အော်တယ်။ "အိပ်ကောင်းချင်း အိပ်ရတော့မယ်မဟုတ်တော့ဘူး. . ." "**မက်က်ဘက်သ်** ဟာ အိပ်စက်ခြင်းကို တကယ်သတ်လိုက်ပြီ" "အသံတစ်သံက အော်ပြောသံကိုလည်း ငါကြားတယ်လို့ ထင်တယ်။"

"ရှင် ဘာတွေ လျှောက်ပြောနေတာလဲ. . .?၊ (ရှင် ဘာကို ဆိုလိုတာလဲ)လို့ **လေဒီ မက်က်ဘက်သ်** က ငေါက်ငန်းပြောဆိုတယ်။ ဒီတော့ **မက်က်ဘက်သ်** က ဆက်ပြောတယ်။ သူ့အသံတွေက တုန်တုန်ယင်ယင် ကြောက်ကြောက်လန့်လန့်နဲ့. . .။ "မင်းကို ငါပြောနေတာက. . . တစ်ယောက်ယောက် အော်တယ်. . . အိပ်ကောင်းခြင်း မအိပ်ရတော့ဘူး. . .။ အိပ်စက်ခြင်းဆိုတာ မရှိတော့ဘူး။ **ဂလန်းမစ်** က အပ်စက်ခြင်းကို သတ်လိုက်ပြီ. . .။ ဒါကြောင့် **ကောဒါ** ဟာ အိပ်စက်နိုင်မယ်မဟုတ်တော့ဘူး။ **မက်က်ဘက်သ်** ဟာ အိပ်စက်နိုင်မှာ မဟုတ်တော့ဘူး"



'You must have been dreaming,' said Lady Macbeth angrily, 'Go and wash the blood from your hands,' And then she noticed that he had brought the blood-stained daggers with him. Why did you bring these?' She asked. 'You must go back and leave them beside the sleepig servants, as a witness that they have done this crime.'

'I'll go no more!' cried macbeth wildly. 'I am afraid to think what I have done. I dare not look on it again.'

“ရှင် အိပ်မက် မက်နေတာဖြစ်ရမယ်. . . ”လို့ **လေဒီ မက်ကဗက်သ်** က ဒေါသတကြီးပြောလိုက်တယ်။ “ရှင့်လက် က သွေးတွေကို သွားပြီး ဆေးလိုက်ဦး”

အဲဒီနောက်မှာမှ. . . သူ(**မက်ကဗက်သ်**) ဟာ သွေးစွန်းနေတဲ့ ဓားမြှောင်တွေကို သူနဲ့အတူ ယူလာတယ်ဆိုတာ သူ(မ)က သတိထားမိတယ်။ “ဘာဖြစ်လို့ ဒါတွေကို ယူလာရတာလဲ. . ? လို့ သူ(မ)က မေးလိုက်တယ်။ “ရှင် အဲဒီနေရာကို ပြန်သွားပြီး. . အဲဒါတွေကို အိပ်ပျော်နေတဲ့ အစေခံတွေနားမှာ ထားလိုက်၊ ဒါမှ ဒီရာဇဝတ်မှုကို သူတို့ ကျူးလွန်တယ်ဆိုတဲ့ သက်သေခံ အထောက်အထားအဖြစ်နဲ့ ရှိအောင် ပြန်ထားလိုက်. . ”

“ငါ ထပ်မသွား(ရဲ)တော့ဘူး” လို့ **မက်ကဗက်သ်** က သွေးရူးသွေးတန်းနဲ့ အော်ပြောတယ်။ “ငါ ဘာလုပ်ခဲ့သလဲဆိုတာ တွေးရမှာတောင် ငါကြောက်တယ်. . ။ အဲဒီနေရာကို နောက်တစ်ခါ ထပ်သွားပြီး မကြည့်ရဲဘူး. . ။



Infrim of purpose! said his wife. 'Give me the daggers.' And she went back to Duncan's room to put the daggers on the floor beside the sleeping servants.

In a few moments she returned, and showing Macbeth her blood-stained hands she said: 'My hands are of your colour, but I should feel ashamed to wear a heart so white.'

When the murder was discovered the next morning, the castle was filled with horror and confusion. Macbeth, as soon as he was told the news, went straight to Duncan's room and killed the two servants, pretending that he did it because they had killed their ig and master.

" ရည်ရွယ်ချက်ကလည်း မခိုင်မာလိုက်တာ!" ခါးမြှောင်တွေ ကျွန်မကို ပေးစမ်းပါ" လို့ သူ့ဇနီးက ပြောလိုက်တယ်။ အဲဒီနောက်. . . အိပ်ပျော်နေတဲ့ အစေခံတွေရဲ့ ဘေးဘက်ကြမ်းပြင်ပေါ်မှာ ခါးမြှောင်တွေကို ချထားဖို့. . . သူ(မ) က **ဒန်ကင်** အခန်းကို ပြန်သွားတယ်။

ခဏလေးကြာတော့. . . သူ(မ) ပြန်လာတယ်။ သူ(မ) ရဲ့ သွေးစွန်းနေတဲ့လက်တွေကို **မက်ကဘက်သ်** သို့ပြရင်း "ကျွန်မရဲ့ လက်တွေလည်း ရှင့်လက်နဲ့ အရောင်အတူတူပါပဲ။ ဒါပေမယ့် စိတ်နှလုံးကို သိပ်ဖြူစင်လွန်းအောင် ထားရမှာတော့ ရှက်ဖို့ကောင်းပါတယ်။ (လုပ်သင့်တဲ့ အလုပ်ဆိုရင်တော့ လုပ်ရမှာပါပဲ)" လို့ သူ(မ)က ပြောတယ်။

နောက်တစ်နေ့နံနက်. . . လုပ်ကြံသတ်ဖြတ်မှုကြီး ပေါ်ပေါက်လာတဲ့အခါ ရဲတိုက်တစ်ခုလုံး ကြောက်ရွံ့တုန်လှုပ်မှုတွေ ထိတ်လန့်တကြား. . .။ ရှုပ်ရှုပ်ထွေးထွေး ဖြစ်မှုတွေနဲ့ ပြည့်လျှမ်းနေပါတယ်။ ဒီသတင်းကို **မက်ကဘက်သ်** သို့ အကြောင်းကြား. . . ကြားခြင်း၊ သူက **ဒန်ကင်** ရဲ့ အခန်းကို တန်းသွားပြီး အစေခံနှစ်ယောက်ကို သတ်လိုက်တယ်။ သူတို့ဟာ သူတို့ရဲ့ အရှင်သခင်ဘုရင်မင်းမြတ်ကို သတ်တဲ့ တရားခံတွေမို့. . . သူက သတ်ရပါတယ်လို့ ဟန်ဆောင်တယ်။



The new of Duncan's death was quickly carried to his two sons, Malclom and Donalbain, and they, feeling sure that the servants were innocent and Macbeth guilty of the crime, hurriedly left Scotland. Macbeth took advantage of their flight and claimed that they must be guilty of the murder and must have paid Duncan's servants to do the deed. Macbeth was now Duncan's nearest relative in Scotland, and therefore heir to the kingdom, and he was crowned king at once.



**ဒန်ကင်** သေဆုံးတဲ့ သတင်းက သားတော်နှစ်ပါး ဖြစ်တဲ့ **မဲလ်ကွန်းမ်း** နဲ့ **ဒေါ်နယ်လ်ဘိန်း** တို့ထံ လျင်မြန်စွာ ရောက်ရှိသွားတယ်။ သူတို့က . . . အစေခံတွေဟာ အပြစ်ကင်းစင်တယ်။ ဒီ ပြစ်မှုကို ကျူးလွန်တာဟာ **မက်က်ဘက်သ်** သာ ဖြစ်တယ်လို့ ကျိန်းသေယူဆကြတယ်။ ဒါကြောင့် စကော့တလန်ကနေ အမြန်ဆုံး ထွက်ခွာသွားကြတယ်။ **မက်က်ဘက်သ်** က သူတို့ထွက်ပြေးတာကို အခွင့်ကောင်းယူတယ်။ ဒီ လုပ်ကြံသတ်ဖြတ်မှု အတွက်. . . သူတို့မှာ အပြစ်ရှိတာဖြစ်ရမယ်။ **ဒန်ကင်** ရဲ့ အစေခံတွေကို ငွေပေးပြီး ဒီလိုလုပ်ဖို့ ခိုင်းစေ တာ ဖြစ်ရမယ်. . . လို့ အခိုင်အမာ စွပ်စွဲပြောကြားတယ်။ အခု. . . **မက်က်ဘက်သ်** ဟာ စကော့တလန်မှာ **ဒန်ကင်** ရဲ့ သွေးအနီးဆုံး ဆွေမျိုးဖြစ်တယ်။ ဒါကြောင့် မင်းနေပြည်တော်အတွက် ထီးမွေနန်းလျာ ဖြစ်တယ်။ ဒါကြောင့် သူ့ကို ဘုရင်အဖြစ် ချင်ချင်း သရဖူအပ်နှင်းတင်မြှောက်လိုက်ကြတယ်။



And thus the witches' second promise had come true; but Macbeth was not yet satisfied. The witches had also said that Banquo would be father to a line of kings, and Macbeth felt that Banquo and his son were a constant danger to him. So he and Lady Macbeth arranged to have a feast for the chief Scottish nobles, and they invited Banquo and his on to stay at the castle as their guests. Macbeth then hired two wicked men to murder them while they were out riding on the afternoon of the feast The murders, however, only succeeded in killing Banquo; his son escaped to England, and many years later there was a line of Scottish kings descended from him. Thus the third promise of the witches did, in the end, come true.

ဤနည်းအားဖြင့် . . . စုန်းမကြီးတွေရဲ့ ဒုတိယ ကတိ စကားလည်း မှန်ကန်လာခဲ့ပါတယ်။ ဒါပေမယ့် **မက်က်ဘက်သ်** က မကျေနပ်သေးပါဘူး။ **ဘန်ကို** ဟာ မင်းဆက်တစ်ဆက်ရဲ့ ဖခင်ဖြစ်လိမ့်မယ်လို့လည်း စုန်းမကြီးတွေက ပြောထားတယ်။ ဒါကြောင့် **ဘန်ကို** နဲ့ သူ့သားဟာ သူ့အတွက် ထာဝရအန္တရာယ် တစ်ခုဖြစ်တယ်လို့ **မက်က်ဘက်သ်** က ခံစားရတယ်။ ဒါကြောင့် သူနဲ့ **လေဒီမက်က်ဘက်** တို့က . . . စကော့တလန်မှူးမတ် အကြီးအကဲတွေအတွက် စားပွဲ သောက်ပွဲကြီးတစ်ခု တည်ခင်း ဧည့်ခံဖို့ စီစဉ်တယ်။ သူတို့က **ဘန်ကို** နဲ့ သူ့သားကို သူတို့ရဲ့ ရဲတိုက်မှာ သူတို့ရဲ့ ဧည့်သည် တော်အဖြစ် တည်းခိုနေထိုင်ဖို့ ဖိတ်ကြားတယ်။ အဲဒီနောက် **မက်က်ဘက်သ်** က သူတို့ကို သတ်ဖို့ လူသတ်သမားလူဆိုး နှစ်ယောက်ကိုငှားတယ်။ စားပွဲသောက်ပွဲ ကျင်းပမယ့် နေ့. . . နေ့လယ်ခင်းမှာ သူတို့ ရဲတိုက်အပြင်ထွက်ပြီး မြင်းစီးထွက်နေတုန်းမှာ သတ်ခိုင်းတာ။ ဒါပေမယ့်. . . လူသတ်သမားတွေက **ဘန်ကို** တစ်ယောက်တည်းကိုပဲ သတ်နိုင်ခဲ့တယ် (သတ်တာအောင်မြင်ခဲ့တယ်)။ သူ့သားက အင်္ဂလန်ကို ထွက်ပြေးလွတ်မြောက်သွားတယ်။ နောင် နှစ်ပေါင်းများစွာကြာတဲ့အခါ စကော့တလန် မင်းဆက် တစ်ဆက်ဟာ သူက စတင်ဆင်းသက်ဖြစ်ပေါ်ခဲ့တယ်။ ဤနည်းအားဖြင့် စုန်းမကြီးတွေ ပေးခဲ့တဲ့ တတိယ ကတိစကားဟာလည်း နောက်ဆုံးမှာ မှန်ကန်လာခဲ့တယ်။



The feast began in spite of the fact that banquo and his son had not appeared. One of the murders had returned and told Macbeth that Banquo was dead, and Macbeth was not greatly troubled by the news of the son's escape. He considered that Banquo had been his most dangerous enemy. He knew that his former friend had strong suspicions about him, having witnessed the scene with the witches. Now that Banquo was dead Macbeth felt more secure, and he went in to the feast with a cheerful heart.

When he reached the table, however, there did not seem to be a place for him. Someone was sitting in his chair.



**ဘန်ကို** နဲ့ သူ့သား မတက်ရောက်လာကြသေးပေမယ့်. . . စားပွဲသောက်ပွဲကို စတင်ကျင်းပပါတယ်။ လူသတ်သမားတွေထဲမှ တစ်ယောက်က **မက်က်ဘက်သ်** ဆီ ပြန်လာပြီး **ဘန်ကို** သေဆုံးကြောင်း. . . လျှောက်ထားအသိပေးတယ်။ သူ့သား လွတ်မြောက်သွားတဲ့ သတင်းအတွက် **မက်က်ဘက်သ်** ဟာ အကြီးအကျယ် စိုးရိမ်ပူပန်မှု မဖြစ်ပါဘူး။ **ဘန်ကို** ဟာ သူ့ရဲ့ အန္တရာယ်အကြီးဆုံး ရန်သူဖြစ်တယ်လို့ သူက ထင်မြင်ယူဆတယ်။ အရင်က မိတ်ဆွေဟောင်းကြီး **ဘန်ကို** ဟာ သူ့အပေါ် အပြင်းအထန် သံသယဝင်နေတယ်ဆိုတာ သူသိတယ်။ စုန်းမကြီးတွေနဲ့ (ပတ်သက်တဲ့) အဖြစ်အပျက်မှာ သူက မျက်မြင်ကိုယ်တွေ့ ဖြစ်ခဲ့တာကိုး။ အခုတော့ **ဘန်ကို** သေပြီ. . .။ **မက်က်ဘက်သ်** အနေနဲ့ ပိုပြီးလုံခြုံစိတ်ချသွားတယ်၊ ဒါကြောင့် သူကပေါ့ပါးကြည်လင်ရွှင်ပျတဲ့စိတ်နဲ့ စားသောက်ပွဲခန်းမထဲ ဝင်ခဲ့ပါတယ်။

ဒါပေမယ့် စားသောက်ပွဲကိုလည်း ရောက်သွားရော. . . သူ့အတွက် ထိုင်စရာနေရာတောင်တစ်ခုမှ ရှိတယ်လို့ မထင်ရဘူး။ သူ့ကုလားထိုင်မှာ တစ်ယောက်ယောက်က ထိုင်နေတယ်။



he looked more closely, and saw to his horror that it was the ghostly spirit of Banquo. No one else could see the ghost, and when Macbeth cried out in fear his guests thought he must be ill. Lady Macbeth encouraged this belief, explaining, 'My lord is often thus, and has been since his youth.' She then took Macbeth aside and scolded him, with hard and bitter words, for being such a coward. The ghost disappeared, and Macbeth controlled himself and sat down at the table.

'Give me some wine. Fill my glass! he said to a servant.

သူက ပိုပြီး နီးနီးကပ်ကပ် ကြည့်လိုက်တယ်။ သူ အထိတ်တလန့် ဖြစ်သွားရတာက. . . အဲဒါဟာ **ဘန်ကို** ရဲ့ တစ္ဆေလို ဝိညာဉ် ပုံသဏ္ဌာန် ဖြစ်နေတယ်။ ဘယ်သူမှ အဲဒီ သူ့ရဲကို မမြင်(နိုင်)ဘူး။ ဒါကြောင့် **မက်ကဘက်သ်**က ထိတ်လန့်တကြား အော်လိုက်တဲ့အခါ. . . သူဟာ နာမကျန်း ဖြစ်နေပြီလို့ သူ့ရဲ့ ဧည့်သည်တော်တွေက ထင်လိုက်ကြ တယ်။ သူတို့ရဲ့ အဲဒီထင်မြင်ယုံကြည်ချက် (ပိုပြီးခိုင်မာ အောင်) **လေဒီမက်ကဘက်သ်** က အားပေးအားမြှောက်ပြု ပြောဆို ရှင်းပြတယ်။ “အရှင်မင်းကြီးဟာ ငယ်ငယ်ကတည်း က. . . မကြာခဏ ခုလိုပဲ ဖြစ်တတ်ပါတယ်. . .”၊ အဲဒီ နောက် သူ(မ)က **မက်ကဘက်သ်** ကို သူ(မ)ဘေးနားခေါ်ပြီး ဆူပူကြိမ်းမောင်းတယ်။ ဒီလောက်ထိ သူရဲဘောနည်းရ မလားဆိုပြီး ခက်ထန်ခါးသီးတဲ့ စကားလုံးတွေနဲ့ဆူတာ. . .။ (အဲဒီအချိန်မှာ) သူ့ရဲက ပျောက်ကွယ်သွားတယ်။ ဒီတော့ **မက်ကဘက်သ်** က သူ့စိတ်ကို သူထိန်းပြီး စားပွဲမှာ ထိုင်လိုက် တယ်။

“ငါ့ကို ဝိုင်အရက် နည်းနည်းပေးစမ်း ဟေ့. . . ငါ့ဖန်ခွက်ကို ဖြည့်လိုက်. . .” လို့ သူက စေခံ တစ်ယောက်ကို ပြောလိုက်တယ်။



'I drink to the general joy of the whole table, and to our dear friend Banquo whom we miss.' He held up his glass but once again his face turned pale with horror. The ghost of Banquo had appeared again. This time Macbeth could not control himself, and he spoke so strangely that Lady Macbeth thought it would be wiser to ask the guests to leave. Macbeth looked so wild and strange that she was afraid he might give away their terrible secret.

After the guests had gone, Macbeth decided he would once more visit the three witches to see if they could offer him any more advice.



(ပြီးတော့ အရက်ခွက်ကို ကိုင်ရင်း) "အခုစားပွဲ
းသောက်ပွဲကို တက်ရောက်လာကြတဲ့ လူအားလုံးရဲ့ ပျော်ရွှင်မှု
အတွက်. . . ပြီးတော့ စားသောက်ပွဲကို မတက်ရောက်
ိုင်တဲ့. . . ကျွန်တော်တို့ရဲ့ ချစ်စွာသော မိတ်ဆွေကြီး
**ာန်ကို** အတွက်. . . ကျွန်တော် သောက်ပါတယ်. . ."လို့
ပြောပြီး အရက်ခွက်ကို ကိုင်မြှောက်လိုက်တယ်။ ဒါပေမယ့်
ာစ်ခါထပ်ပြီး သူ့မျက်နှာဟာ ကြောက်ရွံ့မှုကြောင့် ဖြူဖတ်
ဖျူရော် ဖြစ်သွားတယ်။ **ဘန်ကို** ရဲ့ တစ္ဆေဝိညာဉ်က တစ်ခါ
ာပ်ပြီး ပေါ်လာတယ်။ ဒီအကြိမ်မှာတော့ **မက်က်ဘက်သ်**
က သူ့ကိုယ်သူ မထိန်းနိုင်တော့ဘူး။ စကားတွေကိုလည်း
အရမ်းကို ထူးထူးဆန်းဆန်းတွေ ပြောလာတဲ့အတွက်
းည့်သည်တော်တွေကို ပြန်လည်ထွက်ခွာကြဖို့ပြောဆို
းတာင်းပန်တာဟာ ပိုပြီးအမြော်အမြင်ရှိရာကျမယ်. . . လို့
**းလဒီမက်က်ဘက်သ်** က တွေးမိတယ်။ **မက်က်ဘက်သ်**
ကြည့်ရတာ အရမ်းကို ကယောင်ချောက်ချား ထူးထူးဆန်းဆန်း
ေတွဖြစ်နေလို့. . . သူတို့ရဲ့ ကြောက်မက်ဖွယ် ကောင်းတဲ့
လျှို့ဝှက်ချက်ကြီး ပေါ်သွားမှာကို သူ(မ)က စိုးရိမ်တယ်။

ဧည့်သည်တွေလည်း ထွက်ခွာသွားရော. . . စုန်းမကြီး
သုံးယောက်က နောက်ထပ်အကြံဉာဏ် ပေးနိုင်မလားဆိုတာ
သိရအောင် သူတို့ဆီ နောက်တစ်ကြိမ် ထပ်သွားဦးမယ်. . .
လို့ **မက်က်ဘက်သ်** က ဆုံးဖြတ်တယ်။



He had gone so far in crime to satisfy his own wicked ambition; he had already murdered four people_Duncan and his two servants and Banquo_ and he felt that he could not turn back now. What was done could not be undone, and he was prepared to kill others in order to protect his own safety. Macbeth was sure that there was one nobleman, at least, who suspected his crimes. This was Macduff, the Thane of Fife. Macduff, too should be killed if necessary.

Early next moring Macbeth set out for the lonely heath where he and Banquo had first met the witches. This time the old women gave him warnings as well as promises. The first warning proved that this his fears concerning Macduff were right.

သူရဲ့ ယုတ်မာတဲ့ လောဘတရားကို ကျေနပ်စေဖို့ အတွက် သူဟာ အကုသိုလ် အမှားထဲကို နက်နက်ရှိုင်းရှိုင်း ဝင်ရောက်မိခဲ့ပြီ။ သူဟာ လူလေးယောက်ကို သတ်မိခဲ့ပြီ။ **ဒန်ကင်** နဲ့ သူရဲ့ အစေခံ နှစ်ယောက်ရယ်. . ၊ **ဘန်ကို**ရယ်။ အခုအချိန်ကျမှ. . . နောက်ပြန်ဆုတ်လိုလည်း မဖြစ်နိုင်တော့ဘူးဆိုတာ သိရှိ ခံစားရတယ်။ ပြုလုပ်ဖြစ်ပျက်မိခဲ့တဲ့ အရာတွေကို မပြုလုပ် မဖြစ်ပျက်သေးတဲ့ အရာအဖြစ်. . . ဖန်တီးလို့ ဘယ်ရနိုင်ပါ့မလဲ?။ သူရဲ့ လုံခြုံမှုကို ကာကွယ်ရန် အတွက် အခြားလူတွေကို သတ်ဖို့ ပြင်ဆင်တယ်။ သူ့ရဲ့ ရာဇဝတ်မှုတွေကို သံသယဖြစ်နေတဲ့ မျိုးမတ် အနည်းဆုံး တစ်ယောက်တော့ ရှိရမယ်လို့ **မက်က်ဘက်သ်** က ကျိန်းသေတွက်ဆတယ်။ အဲဒီ လူကတော့ **ဖိုက်ဖ်** နယ်စားကြီး **မက်က်ဒပ်ဖ်** ပေါ့။ လိုအပ်ရင် **မက်က်ဒပ်ဖ်** ကိုလည်း သတ်ရမယ်။

နောက်တစ်နေ့နံနက်မှာ. . . သူနဲ့ **ဘန်ကို** စုန်းမကြီးတွေကို ပထမဦးဆုံး တွေ့ခဲ့တဲ့နေရာ. . . လူသူကင်းမဲ့ပြီး ခေါင်လှတဲ့ ကွင်းပြင်ကြီးဆီကို **မက်က်ဘက်သ်** ထွက်ခွာလာခဲ့တယ်။ ဒီအကြိမ်မှာတော့. . . အဘွားအိုကြီးတွေက သူ့ကို သတိပေးမှုတွေရော ကတိ တွေပါ. . . ပေးတယ်။ ပထမ သတိပေးချက်က. . **မက်က်ဒပ်ဖ်** နဲ့ ပတ်သက်ပြီး သူ့ရဲ့ စိုးရိမ်မှုတွေဟာ မှန်ကန်ကြောင်း သက်သေပြခဲ့တယ်။




'You must watch Macduff, the Thane of Fife,' they said; but their next words brought comfort to Macbeth's anxious heart, because they went on: 'You need not feat the power of man. No man born of woman can harm Macbeth.'

And lastly they said: 'Macbeth shall never be conquered until great Birnam Wood to high Dunsinane hill shall come against him.'



***"ဖိုက်ဖ် နယ်စားကြီး မက်က်ဒပ်ဖ် ကို သင် သတိထား စောင့်ကြည့်ရမယ်. . ."*** လို့ သူတို့က ပြောတယ်။ ဒါပေမယ့် သူတို့ရဲ့ နောက်ထပ်ပြောတဲ့စကား တွေက သူ့ရဲ့ စိုးရိမ်ပူပန်နေတဲ့ နှလုံးသားကို သက်သာရာ ရစေခဲ့တယ်။ ဘာကြောင့်ဆိုတော့. . . သူတို့က ဆက်ပြောတယ်။ "သင်ဟာ ***သာမန် လူသားတစ်ယောက် ရဲ့ စွမ်းအင်၊ အင်အားကို ကြောက်စရာမလိုဘူး. . .! မိန်းမသား(မိခင်) တစ်ယောက်ကနေ (မွေးရိုး မွေးစဉ် သဘာဝအလျောက်) မွေးလာတဲ့ ဘယ်လိုလူစားမျိုး က မှ မက်က်ဘက်သ် ကို ဒုက္ခမပေးနိုင်ဘူး"***

ပြီးတော့ နောက်ဆုံးအနေနဲ့ သူတို့က "***ဘာနန် တောအုပ်ကြီးဟာ. . . မြင့်မားတဲ့ ဒန်စီနိမ်း တောင်ကုန်း ဆီ ရွေ့လာပြီး မတိုက်ခိုက်မချင်း မက်က်ဘက်သ်ကို ဘယ်တော့မှ အနိုင်ယူလို့ ရမယ် မဟုတ်ပေဘူး***" လို့ ပြောကြားတယ်။



Dunsinane was a castle surrounded by a dense forest called Birnam Wood, and the witches' words put Macbeth's superstitious mind at rest. How could trees uproot themselves and attack him? The old women must mean that he would never be conquered!

However, Macbeth decided to play for safety; the witches had warned him against Macduff, and so Macduff must die. Imagine his anger, therefore, when he was told on his return to his castle that Macduff had gone to England to join Duncan's son, Malcolm. In his anger, Macbeth sent two evil men at once to Macduff's castle, ordering them to murder Lady Macduff and her children.

ဂာ ရဲ့တိုက်ကြီးတစ်ခုဖြစ်တယ်။ အဲဒီ
**ဘာနန်သစ်တောကြီး** က ဝိုင်းရံထား
[illegible] ရဲ့ စကားက **မက်က်ဘက်သ်** ရဲ့ အယူ
သီးတဲ့စိတ်ကို တည်ငြိမ်သွားစေတယ်။ ဘယ်လိုလုပ်ပြီး သစ်ပင်တွေဟာ အမြစ်က ကျွတ်ထွက်ပြီး. . . သူ့ကို လာတိုက်မှာလဲ. . . ? သူ့ကို ဘယ်တော့မှ အနိုင်ယူနိုင်ကြမယ် မဟုတ်ဘူး. . . လို့ အဘွားအိုတွေက ဆိုလိုတာဖြစ်ရမယ်။

သို့သော်လည်း. . . သူ့ရဲ့ လုံခြုံရေးအတွက် ဆောင်ရွက်မယ်လို့ **မက်က်ဘက်သ်** က ဆုံးဖြတ်တယ်။ စုန်းမကြီးတွေက **မက်က်ဒပ်ဖ်** နဲ့ ပတ်သက်ပြီး သူ့ကို သတိပေးထားတယ်။ ဒါကြောင့် **မက်က်ဒပ်ဖ်** သေရမယ်. . .၊ ဒါကြောင့် သူလည်း သူ့ရဲတိုက်ကို ပြန်ရောက်ရော. . . **မက်က်ဒပ်ဖ်** ဟာ **ဒန်ကင်** ရဲ့ သားတော် **မဲလ်ကွန်းမ်း** နဲ့ ပူးပေါင်းဖို့ **အင်္ဂလန်** ကို ထွက်ခွာသွားပြီလို့ သူ့ကို လျှောက်တင်ပြောကြားခြင်းခံရတဲ့အခါ. . သူ့ရဲ့ ဒေါသကို စဉ်စားတွေးဆပြီးတော့သာ ကြည့်ပါတော့။ ဒေါသစိတ်မွှန်နေတဲ့ **မက်က်ဘက်သ်** ဟာ လူဆိုးနှစ်ယောက်ကို **မက်က်ဒပ်ဖ်** ရဲ့ ရဲတိုက်သို့ ချက်ချင်း လွှတ်လိုက်တယ်။ **လေဒီ မက်က်ဒပ်ဖ်** နဲ့ သူ(မ)ရဲ့ သားသမီးတွေကိုသတ်ဖို့ အမိန့်ပေးလိုက်တယ်။



Meanwhile, in England, Macduff and Malcolm were making plans to fight Macbeth, and when Macduff received the news of the murder of his family he determined to be revenged on their murderer without delay. He and Malcolm marched at once to Scotland with a strong army to attack Macbeth. Many Scottish nobles had grown to hate Macbeth for his cruelty and wickedness, and they joined Malcolm's army as soon as it crossed the border fromm England.

Macbeth moved to Dunsinane Castle, which had strong defences, and gathered an army together.

အဒအချိန်မှာ. . . **အင်္ဂလန်** မှာ **မက်က်ဒပ်ဖ်** နဲ့ **မဲလ်ကွန်းမ်း** တို့က **မက်က်ဘက်သ်** ကို တိုက်ခိုက်ဖို့ အစီအစဉ်တွေ လုပ်နေကြတယ်။ သူ့မိသားစု အသတ်ခံရတဲ့ သတင်းကို **မက်က်ဒပ်ဖ်** ရရှိတဲ့အခါ. . . လူသတ်သမားကို နှောင့်နှေးမှုမရှိစေဘဲ ချက်ချင်းကလဲစားချေမယ်. . . လို့ သန္နိဋ္ဌာန်ချတယ်။ သူနဲ့ **မဲလ်ကွန်းမ်း** တို့ဟာ အင်အားကြီးမားတဲ့ စစ်တပ်ကြီးတစ်တပ်နဲ့အတူ **မက်က်ဘက်သ်** ကို တိုက်ခိုက်ဖို့ **စကော့တလန်** သို့ ချက်ချင်းချီတက်သွားကြတယ်။ စကော့မျိုးမတ် တော်တော်များများက **မက်က်ဘက်သ်** ရဲ့ ရက်စက်ကြမ်းကြုတ်မှု. . . ကောက်ကျစ်ယုတ်မာမှုတွေအတွက် ရွံ့ရှာမုန်းတီးမှုတွေကြီးထွားလာကြတယ်။ ဒါကြောင့် **မဲလ်ကွန်းမ်း** နဲ့ သွားရောက်ပူးပေါင်းကြတယ်။

**မက်က်ဘက်သ်** က **ဒန်စီနိမ်း** ရဲတိုက်ကို ပြောင်းရွှေ့တယ်။ အဲဒီမှာက ပိုမို အင်အားတောင့်တင်းခိုင်မာတဲ့ ကာကွယ်ရေးအစီအမံတွေရှိတယ်။ အဲဒီမှာ စစ်တပ်ကြီးတစ်တပ်ကိုလည်း အတူတကွ စုစည်းထားတယ်။



There were times when he was almost in despair. Since Duncan's murder he had not known one moment of peace and happiness, and Lady Macbeth's mind was failing under the strain. She had urged her husband to start on his path of crime; she had driven him unmercifully, her strong will keeping a continuous watch on his weaker one. Now the strain was proving too great. Her nights were filled with terrible dreams.



**မက်က်ဘက်သ်** အတွက် စိတ်ပျက်လက်ပျက်နဲ့ မျှော်လင့်ချက် ပျက်သုဉ်းလုနီးပါးအထိ ဖြစ်ရတဲ့ကာလတွေ ကြုံတွေ့ခဲ့ရတယ်။ **ဒန်ကင်** ကိုသတ်ပြီးတဲ့ အချိန်ကစပြီး တော့. . . သူ့အတွက် ငြိမ်းချမ်းပျော်ရွှင်ရတဲ့ အချိန်လေး တစ်ချိန်တောင် မရှိခဲ့ပါဘူး။ **လေဒီမက်က်ဘက်သ်** ရဲ့ စိတ် အစဉ်ဟာလည်း ပူပင်သောကဒဏ်ကြောင့် ယို့ယွင်းပျက်စီး နေရပါတယ်။ သူ(မ)က သူ(မ)ရဲ့ ခင်ပွန်းသည်ကို မှားယွင်းတဲ့ပြစ်မှုလမ်းကြောင်းပေါ် စ. . . လျှောက်ဖို့ တိုက်တွန်း. . . တွန်းအားပေးခဲ့တယ်။ သူ(မ)က သူ့ကိုအဲဒီ လမ်းကြောင်းပေါ်မှာ အကြင်နာကင်းမဲ့စွာနဲ့ မောင်းနှင် ခဲ့တယ်။ သူ(မ)ရဲ့ ပြင်းထန်တင်းမာတဲ့စိတ်က ခင်ပွန်း သည်ရဲ့ ပျော့ညံ့တဲ့စိတ်ကို အမြဲမပြတ်စောင့်ကြည့်နေတယ်။ အခုအခါမှာတော့ ပူပန်သောကတရားက သိပ်ကိုကြီးမား ကြောင်း တွေ့ကြုံသိရှိခံစားရတယ်။ သူ(မ) အိပ်စက်တဲ့ ည ကာလတွေမှာ (အိပ်ကောင်းခြင်း မအိပ်ရဘဲ) ကြောက်စရာ အိပ်မက်ဆိုးတွေ မက်တယ်။



And she wandered round the castle in her sleep, talking strangely and trying to wash imaginary stains of blood from her hands, 'Yet her's a spot!' she would cry in despair. 'Who would have thought the old man had so much blood in him?' And then she would talk of Lady Macduff and Banquo, her poor unhappy mind filled with a sense of guilt. The doctor could find no cure for her, and before long she killed herself in sorrow and despair.



အိပ်ပျော်နေရင်းနဲ့ ရဲတိုက်ထဲမှာ လှည့်လည်လမ်းလျှောက်တယ်။ ထူးထူးဆန်းဆန်းစကားတွေ ပြောတယ်။ (တကယ်မရှိဘဲ) သူ(မ)ရဲ့ စိတ်ကူးသက်သက်ထဲမှာ စွန်းထင်းနေတယ်လို့ ထင်နေတဲ့ လက်ကသွေးတွေကို ဆေးကြောဖို့ (အမြဲ) ကြိုးစားနေတယ်။ "ဒီလောက် ဆေးထားတာတောင်. . . ဒီမှာ သွေးစက်တစ်စက်. . ရှိနေသေးတယ်. . !" လို့ သူ(မ)က စိတ်ပျက်လက်ပျက် အော်လိမ့်မယ်။ "အဘိုးကြီးရဲ့ ခန္ဓာကိုယ်ထဲမှာ. . . သွေးတွေ ဒီလောက်များများရှိမယ်. . . လို့ဘယ်သူက ထင်ထားမှာလဲ. . . ?" ပြီးတော့ သူ(မ)က **လေဒီမက်က်ဒပ်ဖ်** တို့. . . **ဘန်ကို** တို့နဲ့ စကားစမြည်ပြောမယ်. . .။ သနားစရာ ကောင်းပြီး မချမ်းမြေတဲ့ သူ(မ)ရဲ့ စိတ်အစဉ်မှာ အပြစ်ရှိတဲ့အတွက်. . စိတ်မသန့်တာတွေ၊ လိပ်ပြာမလုံတာတွေနဲ့ ပြည့်လျှမ်းနေပါတယ်။ သမားတော်တွေက သူ(မ)ကို ကုသဖို့အတွက် ဆေး. . . ရှာလို့ မတွေ့ပါဘူး။ ဒီလိုနဲ့ မကြာခင်မှာ စိတ်ဆင်းရဲပြီး မျှော်လင့်ချက် ကင်းမဲ့မှုကြောင့် သူ(မ)ကိုယ် သူ(မ) သတ်သေသွားပါတယ်။



Macbeth began to realise how empty this life was. He had hoped to gain so much when he was king, but he had gained nothing and lost everything: his friends, his honour, the trust of his soldiers, and his wife's companionship. 'I have live long enough,' he thought sorrowfully. 'Those things which should accompany old age, such honour, love, obedience, a faithful army, good friends_ all these things I cannot hope to have. Instead, I must expect hatred and curses from everyone.'



**မက်က်ဘက်သ်** က သူ့ဘဝဟာ ဘယ်လောက်ထိ တန်ဖိုးမဲ့ပြီး. . . အဓိပ္ပါယ် မရှိဘူးဆိုတာ စတင်သိရှိသဘောပေါက်ခဲ့ပါပြီ။ သူ ဘုရင်ဖြစ်တဲ့အခါ သိပ်ကို များပြားတဲ့အရာတွေကို ရရှိပိုင်ဆိုင်ဖို့ မျှော်လင့်ထားခဲ့တယ်။ ဒါပေမယ့် ဘာမှမရတဲ့အပြင် အရာရာကို ဆုံးရှုံးခဲ့ရတယ်. . .။ သူ့ရဲ့ မိတ်ဆွေတွေ. . . သူ့ရဲ့ ဂုဏ်သိက္ခာ. . . သူ့စစ်သားတွေရဲ့ ယုံကြည်အားထားမှု. . . သူ့ဇနီးသည်နဲ့ ပေါင်းသင်းဆက်ဆံခြင်းတွေ. . . (ဆုံးရှုံးခဲ့ရတယ်)။

“ငါလည်း ထိုက်တန်သလောက် အသက်ရှည်ရှည်. . ရှင်သန်နေထိုင်ပြီးခဲ့ပြီပဲ. . .”လို့ သူက ကြေကွဲဝမ်းနည်းစွာ တွေးတောနေမိတယ်။ “အသက်အရွယ် ကြီးရင့်. . . ဇရာပိုင်းမှာ ယှဉ်တွဲရှိနေသင့်တဲ့ ဂုဏ်သိက္ခာ၊ မေတ္တာတရား၊ နာခံမှု၊ သစ္စာရှိတဲ့ စစ်တပ်၊ မိတ်ဆွေကောင်းတွေ. . .၊ အဲဒါတွေ အားလုံးကို ရရှိဖို့ ငါ မမျှော်လင့်နိုင်တော့ပါဘူး။ အဲဒါတွေအစား. . . လူတိုင်းဆီက မုန်းတီးမှုတွေ ကျိန်ဆဲမှုတွေကိုသာ ငါ မျှော်လင့်ရပေတော့မယ်”



But the news came that Malcolm's army was near at hand, and Macbeth was stirred to courage. 'i'll fight them all!' he cried. I' will not be afraid of death till Birnam forest comes to Dunsinane.'

He prepared to meet the enemy, but before he had time to leave the castle a messenger came running to him with the most astonishing news. 'As I was watching upon the hill,' he said, 'I looked towards Birnam, and suddenly I thought the wood began to move.'



ဒါပေမယ့် **မဲလ်ကွန်းမ်း** ရဲ့ စစ်တပ်ကြီးဟာ. . . အနီး အနား. . . လက်တစ်ကမ်းအလိုမှာ ရောက်နေပြီဆိုတဲ့ သတင်းတွေရောက်လာတယ်။ **မက်က်ဘက်သ်** ရဲ့ သတ္တိတွေ နိုးကြားတက်ကြွ လာကြတယ်။ "သူတို့အားလုံးကို . . . ငါ တိုက်ခိုက်မယ်ကွ. . . !" လို့ သူက ကြွေးကြော်တယ်။ "**ဘာနန်** သစ်တောကြီး **ဒန်စီနိမ်း** တောင်ကုန်းဆီကို ရွေ့လျားမလာမချင်း. . . ငါက သေခြင်းတရားကို ကြောက် မယ် မဟုတ်ဘူး။"

သူက ရန်သူနဲ့ တွေ့ဆုံဖို့ ပြင်ဆင်တယ်။ ဒါပေ မယ့်. . . ရဲတိုက်ကနေ ထွက်ခွာချိန်မရခင်မှာ သတင်း ပို့သူ ဆက်သားတစ်ယောက် သူ့ဆီကို အပြေးလေး ရောက်လာတယ်။ သူနဲ့အတူ အံ့သြဖွယ်အကောင်းဆုံး သတင်းတွေကို သယ်ဆောင်လာတယ်။ "ကျွန်တော် မျိုး. . . တောင်ကုန်းပေါ်ကနေ စောင့်ကြည့်နေတုန်းမှာ **ဘာနန်** တောအုပ်ဆီ လှမ်းကြည့်လိုက်ပါတယ်။ သစ်တော တောအုပ်ကြီး ရုတ်တရက် ရွေ့လာတယ်လို့ ကျွန်တော် ထင်ပါတယ်" လို့ သူက လျှောက်တင်တယ်။



'You are a liar! cried Macbeth, in terrible anger. 'Such a thing cannot be true.'

But it was true. Malcolm had told his soldiers to cut down some of the trees in Birnam Wood and carry the leafy branches in front of them. In this way their advance would not be noticed, and the number of their soldiers would be hidden from the enemy.



“မင်းလူလိမ်ပဲကွ. . . !” “ဒီလိုအရာမျိုး ဖြစ်မလာနိုင်ပါဘူး. . . ” လို့ ကြောက်စရာကောင်းလောက်အောင် ဒေါသတကြီးနဲ့ **မက်က်ဘက်သ်** က အော်လိုက်တယ်။

ဒါပေမယ့်. . . ဒါဟာ တကယ့် အမှန်အကန်ပါပဲ။ **ဘာနန်** တောအုပ်ထဲက သစ်ပင်တချို့ကို ခုတ်လှဲဖို့. . . **မဲလ်ကွန်းမ်း** က သူ့စစ်သားတွေကို သူတို့ရဲ့ ရှေ့ကနေ သယ်ဆောင် ချီတတ်ဖို့ အမိန့်ပေးတယ်။ အဲဒီလို သယ်ဆောင်ခြင်းအားဖြင့် သူတို့ရဲ့ စစ်ချီတက်လာတာကို သတိထားမိကြလိမ့်မယ် မဟုတ်ဘူး။ သူတို့ရဲ့ စစ်သား အရေအတွက်ကိုလည်း ရန်သူ တွေမသိအောင် ဖုံးကွယ်ထားနိုင်မှာဖြစ်တယ်။



The witches had said, 'Fear not till Birnam Wood comes to Dunsinane,' and now the wood seemed to be moving towards the castle. Macbeth began to understand how the three evil witches had deceived him with their false promises; but there still remained one more promise: 'No man born of woman can harm Macbeth.' Surely there could be no deceit in that?

And so Macbeth, who had never lacked courage as a soldier, went out to meet the enemy. He fought with great courage, and his belief in the witches' promise gave him confidence.



စုန်းမကြီးတွေက ပြောခဲ့တယ်. . . **"ဘာ့နန် သစ်တောကြီး ဒန်စီနိမ်း** ကို မလာမချင်း မကြောက်နဲ့. . ." လို့၊ အခုတော့ သစ်တောက ရဲတိုက်ဆီကို ရွေ့လျားလာနေတယ် လို့ ထင်ရတယ်။ ဒီ. . . မကောင်းဆိုးဝါး. . . စုန်းမကြီး သုံးယောက်ဟာ သူတို့ရဲ့ စဉ်းလဲတဲ့(အစစ်အမှန်မဟုတ်တဲ့) ကတိတွေနဲ့ သူ့ကို ဘယ်လို လှည့်စားခဲ့တယ်ဆိုတာ **မက်ကဘက်သ်** နားလည်စပြုပါပြီ။ ဒါပေမယ့်. . . ကတိ တစ်ခု ကျန်သေးတယ်။ **"မိန်းမသား(မိခင်) တစ်ယောက်ကနေ (မွေးရိုးမွေးစဉ် သဘာဝအလျောက်) မွေးလာတဲ့ ဘယ်လို လူစားမျိုးမှ မက်ကဘက်သ်ကို ဒုက္ခမပေးနိုင်ဘူး" ဆိုတဲ့ ကတိပါပဲ။ ဒီကတိမှာလည်း. . . လှည့်စားမှုမပါတာ သေချာရဲ့လား. . . ?**

ဒါကြောင့်. . . စစ်သားတစ်ယောက်အနေနဲ့ ဘယ်တော့မှ သတ္တိမကြောင်ခဲ့တဲ့ **မက်ကဘက်သ်** ဟာ ရန်သူနဲ့ တွေ့ဖို့ ထွက်ခွာသွားပါတယ်။ သူက ကြီးမားတဲ့ သတ္တိနဲ့ ရဲရင့်ပြောင်မြောက်စွာ တိုက်ခိုက်တယ်။ စုန်းမကြီးတွေရဲ့ ကတိ အပေါ်မှာ သူ့ရဲ့ ယုံကြည်ချက်က သူ့ကိုယ်သူ စိတ်ချယုံကြည် မှုကို ပေးအပ်ရရှိစေတယ်။



Macduff, leading the enemy army, was determined fight and kill Macbeth, to revenge the murder of his wife and children. So when he saw him, he rushed towards him shouting, 'Turn, Macbeth, turn! Macbeth, remembering Lady Macduff and her helpless children, cried: 'Get back, Macduff. I have already killed too many of your family.' Macduff, however, continued to attack him, and they fought fiercely.

At last Macbeth said: 'You are wasting your strength, Macduff. I have a magic life which no one of ordinary human birth can take from me.'

ရန်သူစစ်တပ်ကြီးကို **မက်က်ဒပ်ဖ်** က ဦးဆောင်လာတယ်။ သူ့ဇနီးနဲ့ သားသမီးတွေ အသက်ခံရတာကို ကလဲစား ချေဖို့ **မက်က်ဘက်သ်** ကို တိုက်ခိုက်သတ်ဖြတ်မယ်လို့ သူက **သန္နိဋ္ဌာန်** ချထားတယ်။ ဒါကြောင့် သူက **မက်က်ဘက်သ်** ကို တွေ့တဲ့အခါ သူ့ဆီကို တစ်ဟုန်ထိုးပြေးသွားတယ်။ ပါးစပ် ကလည်း "ဒီဘက်ကိုလှည့်စမ်း **မက်က်ဘက်သ်** လှည့် လိုက်စမ်း!" လို့ အော်ဟစ်ပြောဆိုတယ်။ **လေဒီ မက်က်ဒပ်ဖ်** နဲ့ သူ(မ)ရဲ့ အားကိုးရာမဲ့ သားသမီးလေး တွေကို သတိရသွားတဲ့အတွက် **မက်က်ဘက်သ်** ပြန်အော် ပြီး ပြောတယ်။ "ရှောင်ဟေ့. . . **မက်က်ဒပ်ဖ်** . . . ငါနဲ့ ဝေးဝေးနေ. . . မင်းရဲ့ မိသားစုတွေကို ငါ သတ်ခဲ့တာ များလွန်းနေပြီ. . . "၊ ဒါပေမယ့်. . . **မက်က်ဒပ်ဖ်** ဆက်လက်ပြီး တိုက်ခိုက်တယ်။ သူတို့ နှစ်ဦးဟာ ပြင်းပြင်း ထန်ထန် ရက်ရက်စက်စက် တိုက်ခိုက်ကြတယ်။

နောက်ဆုံးမှာ **မက်က်ဘက်သ်** က ပြောလိုက်တယ်။ "မင်းရဲ့ ခွန်အားတွေကို မင်းဖြုန်းတီးပစ်နေတာပဲ **မက်က်ဒပ်ဖ်**. . . ငါ့မှာ ထူးဆန်းတဲ့ မှော်အသက်ဝိညာဉ်ရှိတယ်။ သာမန်မွေးရိုးမွေးစဉ်မွေးတဲ့ ဘယ်လူသားမှ ငါ့ဆီက ယူ မသွားနိုင်ဘူး. . . "



'You can despair of that magic,' answered Macduff. 'I was not born in the ordinary way. I was taken from my mother by an operation before the time was due for my birth.'

Then Macbeth knew that the witches had deceived him to the end. He cursed them bitterly, and lost both hope and courage for a moment. 'I will not fight with you,' he cried to Macduff.

'Then surrender, coward!' said Macduff scornfully, 'and we will make a show of you to everyone, and tell them what a cruel, evil man you are.'

"အဲဒီ ထူးဆန်းတဲ့ မှော်ဝိညာဉ်ဆိုတာကြီးကို မင်း စိတ်ပျက်ပြီး. . . မျှော်လင့်ချက်ကုန်ခမ်းသွားလိမ့်မယ်။ ငါ့ကို သာမန်မွေးရိုးမွေးစဉ်အတိုင်း မွေးတာ မဟုတ်ဘူးကွ။ ငါ့ကို မွေးဖို့ဖွားဖို့ အချိန်မစေ့မီ. . . မှာ ငါ့အမေဗိုက်ကို ခွဲပြီး ငါ့ကို မွေးထားတာကွ. . ." လို့ **မက်ကဒပ်ဖ်** က ပြန်ပြောလိုက်တယ်။

စုန်းမကြီးတွေဟာ နောက်ဆုံးအချိန်အထိ လှည့်စား သွားတာပါလား. . . လို့ **မက်ကဘက်သ်** သိခဲ့ရပါပြီ။ သူက သူတို့ကို နာနာကျည်းကျည်း ကျိန်ဆဲလိုက်တယ်။ မျှော်လင့်ချက်ကော သတ္တိတွေပါ ခေတ္တခဏလောက် ပျောက်ဆုံးခဲ့ရပါတယ်။ "ငါ မင်းနဲ့ ဆက်မတိုက်တော့ ဘူးကွာ. . ." လို့ သူက **မက်ကဒပ်ဖ်** ကို အော်ပြော လိုက်တယ်။

"ဒီလိုဆို. . . လက်နက်ချပေါ့ကွ. . . ငကြောက် ရဲ့. . ." လို့ **မက်ကဒပ်ဖ်** က သရော်လှောင်ပြောင်ပြီး ပြော လိုက်တယ်။ "မင်းကို လူတိုင်းကြည့်စေဖို့ ပြပွဲတစ်ခု လုပ်မယ်။ မင်းဟာ ဘယ်လောက်ထိ ကောက်ကျစ်စဉ်းလဲ ဆိုးသွမ်းယုတ်မာတဲ့ လူဖြစ်ကြောင်း သူတို့ကို ပြောပြ ရမယ်"

At these words, Macbeth recovered his courage and cried: 'I will not surrender to kiss the ground before young Malcolm's feet, and be cursed by the common people. Lay on, Macduff, and cursed be he who first cries "Hold, enough!" '

In the fight that followed Macbeth was killed, and his strange unhappy life came to an end. Malcolm was crowned King of Scotland, and Macduff was made the Earl of Fife as a reward for his faithful service to his king.

  

ဒီစကားတွေကို ကြားတော့ **မက်က်ဘက်သ်** က သူ့ရဲ့ သတ္တိတွေကို ပြန်လည်စုစည်း ရရှိခဲ့တယ်။ "ငါက ငယ်ရွယ်တဲ့ **မဲလ်ကွန်းမ်း** ရဲ့ ခြေတော်ရှေ့မှောက်မှာ လက်နက်ချ ဒူးထောက်ပြီး. . . မြေပြင်ကို ဘယ်တော့မှ နမ်းမယ့်ကောင် မဟုတ်ဘူးကွ။ သာမန်လူတန်းစားတွေ ဆဲဆိုတာကိုလည်း မခံဘူးကွ။ လာလေကွာ. . . **မက်က်ဒပ်ဖ်**. . . ကြောက်ပါပြီ ခင်ဗျ! လို့ ပထမဦးဆုံး စအော်တဲ့သူက အလကားကောင်ပဲကွ. . ." လို့ သူက ကြွေးကြော်ပြောဆိုတယ်။

ဆက်လက်ပြီး တိုက်ခိုက် ကြတဲ့ တိုက်ပွဲမှာ. . . **မက်က်ဘက်သ်** အသတ်ခံလိုက်ရပါတယ်။ သူ့ရဲ့ ထူးဆန်းပြီး စိတ်မချမ်းမြေ့စရာကောင်းတဲ့ ဘဝဟာ နိဂုံးချုပ်ခဲ့ရပါပြီ။ **မဲလ်ကွန်းမ်း** ကို **စကော့တလန်ပြည့်ရှင် ဘုရင်မင်းမြတ်** အဖြစ် တင်မြှောက်ကြတယ်။ ဘုရင့်အပေါ်မှာ သစ္စာရှိရှိ အမှုတော်ထမ်းတဲ့အတွက် **မက်က်ဒပ်ဖ်** ကို **ဖိုက်ဖ်** နယ်စား အမတ်ကြီးအဖြစ် ခန့်အပ်အပိုင်စားပေးလိုက်ပါတယ်။

**မောင်သိန်းလွင်**

